**အပဂတခဏ္ဍကာဠက** (တိ) [အပဂတ+ခဏ္ဍ+ကာဠက] အကျိုးအပဲ့, အမည်းအနက်ကင်းသော။ အပဂတခဏ္ဍကာဠကေဟိ ဝိစိတ-တဏ္ဍုလေဟိ ကတံ။ ဇာ၊ဋ္ဌ၊၄။၃၇၃။

**အပဂတခိလ** (တိ) [အပဂတ+ခိလ] စေတော-ခိလ-တရား ၅-ပါး ကင်းသော၊ သူ။ ဝိဂတ-ခိလောတိ အပဂတခိလော။ ယေ ဟိ တေ စိတ္တဗန္ဓဘာဝေန ပဉ္စ စေတောခိလာ ဝုတ္တာ။.... တေ စ ဘဂဝတာ....ပဟီနာ။ တသ္မာ ဘဂဝါ "ဝိဂတခိလောဟမသ္မိ"တိ အာဟ။ သုတ္တနိ၊ဋ္ဌ၊၁။၂၇-ဂ။

**အပဂတဂတ္တ** (ထီ) [အပဂတ+ဂတ္တ] ကိုယ်ဝန်ကင်းသော၊ကိုယ်ဝန်–ဆောင်ဆဲ–ရှိနေဆဲ–မဟုတ်သော။ အညတရာ ဣတ္ထီ အပဂတ-ဂတ္တာ။ ဝိ၊၄။၂၆၇။ အပဂတဂတ္တာ ဝါ ဟောတု ဂရုဂတ္တာ ဝါ။ ဝိ၊ဋ္ဌ၊၄။၅၂။

**အပဂတဂိဟိဗျဉ္ဇန** (တိ) [အပဂတ+ဂိဟိဗျဉ္ဇန] လူ့အသွင်ကင်းသော၊ဝတ်ကြောင်လူသား–အိမ်ထောင်ရှင်ယောကျ်ား–၏–အသွင်–အမှတ်လက္ခဏာ–တို့မှ ကင်းသော။ (ဂိဟိ-ဗျဉ္ဇနဟူသည် ဆံအရှည်ထားခြင်း, မုတ်ဆိတ်ကြင်စွယ်ထားခြင်း, အဝတ်ဖြူဝတ်ခြင်း, အ-ဝတ်တန်ဆာ ဆင်ခြင်း, ပန်းပန်ခြင်း, နံ့သာလိမ်းခြင်း, နံ့သာပျောင်းတို့ဖြင့် အတင့်အတယ်ပြုခြင်း, သားမယား ကျွန်ယောကျ်ား ကျွန်မိန်းမထားခြင်းစသည်တည်း။) အဟော ဝတာဟမ္ပိ သဒ္ဓိန္နပတ္တော ကောဝိဋ္ဌာရော ဝိယ အပဂတဂိဟိဗျဉ္ဇနော ဘဝေယ့်။ အပ၊ဋ္ဌ၊၁။၁၉၀။ (သုတ္တနိ၊ဋ္ဌ၊၁။၈၀-၌ အပေတ-ဂိဟိဗျဉ္ဇနော-ဟု ရှိသည်။) ဂိဟိဗျဉ္ဇနာနီတိ ကေသမဿုဩဒါတဝတ္ထာလင်္ကာရမာလာဂန္ဓ-ဝိလေပနပုတ္တဒါရဒါသိဒါသာဒီနိ။ တောနိ ဟိ ဂိဟိဘာဝံ ဗျဉ္ဇယန္တိ၊ တသ္မာ "ဂိဟိဗျဉ္ဇနာ-နီ"တိ ဝုစ္စန္တိ။ သုတ္တနိ၊ဋ္ဌ၊၁။၈၀။ အပ၊ဋ္ဌ၊၁။၁၉၀။

**အပဂတဂေါပါလက** (တိ) [အပဂတ+ဂေါပါ-လက] နွားကျောင်းသား – ကင်းသော – မရှိသော။ ယေ တေ ဂေါဋ္ဌာ ပဋ္ဌိတဂါဝေါ အပဂတဂေါပါလကာ။ မ၊၁။၁၁၂။

**အပဂတဃမ္မတ္တ** (န) [အပဂတ+ဃမ္မ+တ္တ] အိုက်ခြင်းကင်းသည်၏ အဖြစ်။ ထေရဿပိ အာဝါသဂတ္တေ မေဃဝါတဖဿေဟိ အပဂတ-ဃမ္မတ္တာ ပဿဒ္ဓကရဇကာယေ ကလ္လတံ ပတ္တေ....။ ထေရ၊ဋ္ဌ၊၁။၄၂၆။

**အပဂတစိတ္တ** (န) [အပဂတ+စိတ္တ] ကင်းသော စိတ်၊ မတပ်မက်–မနှစ်သက်–သော စိတ်။ အပေတစိတ္တ-ကြည့်။

**အပဂတဆဝိဝဏ္ဏ** (တိ) [အပဂတ+ဆဝိဝဏ္ဏ] ကောင်းမွန်တင့်တယ်သော ကိုယ်ရေ အဆင်း – ကင်းသော – မရှိသော။ ဝိဂတဝဏ္ဏ (စူဠနိ၊ဋ္ဌ။၇၅) ကြည့်။

**အပဂတဇိမ္ဟ** (တိ) [အပဂတ+ဇိမ္ဟ] အကောက်အလိမ်ကင်းသော။ ဝေါယံ နေမိ အပဂတ-ဝင်္ကာ အပဂတဇိမ္ဟာ အပဂတဒေါသာ....။မ၊၁။၃၇။

**အပဂတဇီဝိတ** (တိ) [အပဂတ+ဇီဝိတ] အသက် – ကင်းသော – မရှိသော၊သူ။ ဝေ သန္တေ အဟံ မံ အပဂတဇီဝိတံ သလ္လက္ခေမိ။ ဇာ၊ဋ္ဌ၊၆။၂၇၂။ (ဇာ၊ဋ္ဌ၊၇။၃၄၅-လည်း ကြည့်။)

**အပဂတဌာန** (န) [အပဂတ+ဌာန] ကင်းမဲ့–လစ်ဟင်း – လပ် – ဟာ – သော နေရာ။ ပါကာရသန္ဓိ (ဒီ၊ဋ္ဌ၊၃။၆၇။ သံ၊ဋ္ဌ၊၃။၂၄၄) ကြည့်။

**အပဂတတစပပဋိက** (တိ) [အပဂတ+တစ+ပပဋိက] အခေါက်,အပွေး–ကင်းသော–မရှိသော။ သော အပရေန သမယေန အပဂတသာခါပလာသော အပဂတတစ-ပပဋိကော အပဂတဖေဂ္ဂုကော။ မ၊၂။၁၅၆။

**အပဂတတဏှာစလန** (တိ) [အပဂတ+တဏှာ+စလန] တဏှာတည်းဟူသော တုန်လှုပ်ခြင်းကင်းသော၊သူ။ အနေဇောတိ အပဂတတဏှာစလနော။ သုတ္တနိ၊ဋ္ဌ၊၂။၉၇။

**အပဂတတ္တ** (န) [အပဂတ+တ္တ] ကင်းသည်၏အဖြစ်။ နိဗ္ဗာနံ သဗ္ဗကိလေသေဟိ နိဿဋတ္တာ အပဂတတ္တာ။ ဒီ၊ဋ္ဌ၊၂။၁၉။ မ၊ဋ္ဌ၊၄။ ၁၂၀။ သံ၊ဋ္ဌ၊၃။၂၄၃။

**အပဂတဒေါသ** (တိ) [အပဂတ + ဒေါသ] အပြစ် – ဒေါသ – ကင်းသော – မရှိသော။ အပဂတဇိမှ-ကြည့်။

**အပဂတနတ**(တိ) [အပဂတ+နတ] ညွတ်ခြင်း – ငြိကပ်ခြင်း – ကင်းသော။ အပဂတနတံ ဝါ၊ နတတော အပဂတန္တိ အတ္ထော။ ပဋိသံ၊ဋ္ဌ၊ ၂။၇၃။ အပနတ, အနပနတ-တို့လည်း ကြည့်။

**အပဂတပင္ကလဒေါသ** (တိ) [အပဂတ+ပင္ကလ+ဒေါသ] တိမ်သလာ – အပြစ် – ဒေါသ – ကင်းသော။ အပဂတပင္ကလပိဋကကြည့်။

**အပဂတပင္ကလပိဋက** (တိ) [အပဂတ+ပင္ကလ+ပိဋကာ] တိမ်သလာနှင့် ကျိန်းစပ်မှု စသည့် – အပြစ် – ဒေါသ – ကင်းသော။ မံသစက္ခုမ္ပိ ဟိဿ ပရိသုဒ္ဓံ ဝဋ္ဋတိ အပဂတပင္ကလပိဋကံ။ သံ၊ဋ္ဌ၊၂။ ၂၉၆။ အပဂတပင္ကလပိဋကန္တိ အပဂတပင္ကလဒေါသံ စေဝ အပဂတပိဋကဒေါသဉ္စ။ သံ၊ဋီ၊၂။ ၂၅၁။

**အပဂတပရိပ္ဖန္ဒန** (တိ) [အပဂတ+ပရိပ္ဖန္ဒန] တုန်လှုပ်ခြင်း – ကင်းသော – မရှိသော။ မာနဒဗ္ဗဝသေန အပဂတပရိပ္ဖန္ဒနံ။ ဒီ၊ဋီ၊၁။ ၂၇၇။

**အပဂတပိလောတိက** (တိ) [အပဂတ+ပိလောတိကာ] ဟောင်းနွမ်း – စုတ်ပြတ် – သေးငယ် – သော ပုဆိုးမျိုးကင်းသော၊ ချုပ်အပ်ထုံးအပ်သော ပုဆိုးဟောင်း ပုဆိုးနွမ်းမျိုး မဟုတ်သော၊ အချုပ်အစပ် အထုံးအဖွဲ့ ကင်းသော ပုဆိုးအသစ်မျိုးနှင့် တူသော ဆွဲမရဆန့်မရအောင် အနံကျဉ်း အလျားတိုသော ပုဆိုးငယ်မျိုး မဟုတ်သော၊ အလိုရှိသည့်အတိုင်း ဆွဲနိုင် ဆန့်နိုင် ဝတ်ဆင်နိုင်အောင် အနံကျယ် အလျားရှည်သော ပုဆိုးကြီးမျိုးနှင့်တူသော။ သောပိ ဆိန္နပိလောတိကော၊ အပဂတပိလောတိကောတိ အတ္ထော။ သံ၊ဋ္ဌ၊ ၂။၄၅။

**အပဂတပိဟ** (တိ) [အပဂတ+ပိဟာ] တပ်မက်ခြင်း – ကင်းသော – မရှိသော၊ သူ။ ပိဏ္ဍပါတံ ပဋိစ္စ အပိဟံ အပဂတပိဟံ အဂိဒ္ဓံ နိတ္တဏှံ။ အပ၊ဋ္ဌ၊၂။၂၃၇။

**အပဂတပိဋကဒေါသ** (တိ) [အပဂတ+ပိဋကာ+ဒေါသ]ကျိန်းစပ်မှု စသော – အပြစ် – ဒေါသ – ကင်းသော။ အပဂတပင္ကလပိဋက-ကြည့်။

**အပဂတဖေဂ္ဂုက** (တိ) [အပဂတ+ဖေဂ္ဂု+က] အကာ – ကင်းသော – မရှိသော။ အပဂတတစပပဋိက-ကြည့်။

**အပဂတဗလ** (တိ) [အပဂတ+ဗလ] အား – ကင်းသော – မရှိသော။ အဗလ (အံ၊ဋ္ဌ၊၃။ ၂၆) ကြည့်။

**အပဂတဗုဒ္ဓါလောက** (တိ) [အပဂတ + ဗုဒ္ဓါလောက] ဘုရားတည်းဟူသော အရောင် – ကင်းသော – မရှိသော။ အပဂတဗုဒ္ဓါလောကော အဟောသိ။ ဗုဒ္ဓဝံ၊ဋ္ဌ။ ၂၈၅။

**အပဂတဘာဝ** (ပု) [အပဂတ+ဘာဝ] ကင်းသည်၏ အဖြစ်၊ ကင်းသော သဘော။ ဂေါပါလကာနံ ဂါဝီဟိ သဒ္ဓိံ အပဂတဘာဝံ ဒိသွာ။ မ၊ဋ္ဌ၊၁။၃၅၁။

**အပဂတဘေရဝ** (တိ) [အပဂတ+ဘေရဝ] ကြောက်ဖွယ်ဘေး ကင်းသော၊သူ။ အပေတဘေရဝ-ကြည့်။

**အပဂတမံသလောဟိတ** (တိ) [အပဂတ+မံသ+လောဟိတ ] အသားအသွေး – ကင်းသော

– မရှိသော။ အငွိကသဇ်လိကံ အပဂတ-
မံသလောဟိတံ။ ဒီ၊၂။ ၂၃၅။ မ၊၁။၇၄။ မ၊
၃။၁၃၄။ အံ၊၂။ ၂၇၅။ (ဒီ၌၊၂။၃၆၃။ မ၌၊
၁။ ၂၇၇-တို့လည်း ကြည့်။)

**အပဂတမက္ခဘာဝ** (တိ)[အပဂတ+မက္ခဘာဝ]
တုန့်လှုပ်သည်၏အဖြစ် – အရှိန်အစော်မဲ့သည်
၏အဖြစ် – ကင်းသော၊ တုန့်လှုပ်ခြင်း – အရှိန်
အစော်မဲ့ခြင်း – ကင်းသော။ ကိလေသာနံ
အဘာဝေန ဝိဂတသာရမ္ဘံ အပဂတမက္ခ-
ဘာဝံ။ ဣတိဝုတ်၌။ ၂၄၁။

**အပဂတမက္ခိကဏ္ဍက**(တိ)[အပဂတ+မက္ခိကာ+
အဏ္ဍက ] ပျားကောင်, ပျားဥတို့ – ကင်း
သော – မရှိသော။ အနေလက, အနေဠက-
တို့ ကြည့်။

**အပဂတမတ္တ** (န) [အပဂတ+မတ္တ] ကင်း –
လွတ် – ကာမျှ။ ဟတ္ထတော အပဂတမတ္တေ
ဆတ္တပါဏိ နာမ န ဟောတိ။ ဝိ၌၊၃။၁၆၇။

**အပဂတမေဃ** (တိ) [အပဂတ+မေဃ]မိုးတိမ်
ကင်းသော။ ဝိဂတဝလာဟကန္တိ အပဂတ-
မေဃံ။ ဝိ၌၊၃။ ၂၄၀။ ဥဒါန၌။၉၀။ (မ၌၊
၂။ ၂၇၆။ မ၌၊၃။၁၇၇-တို့လည်း ကြည့်။)

**အပဂတရဇ** (တိ) [အပဂတ+ရဇ] မြူ – အညစ်
အကြေး – ကင်းသော၊ စင်ကြယ်သော။သယံ
အပဂတရဇံ ဝိရဇေန နိဒ္ဒေါသေန ကညန-
ဇာလေန ဆာဒိတံ။ ဝိမာန၌။ ၂၁၉။

**အပဂတလဇ္ဇ** (တိ) [အပဂတ+လဇ္ဇာ]အရှက် –
ကင်းသော – မရှိသော၊ သူ။ အထ သာ....
ကတိပါဟစ္စယေန အပဂတလဇ္ဇာ တတော
နိဝတ္တေတွာ....။ ပေတ၌။၄၄။

**အပဂတလောကုတ္တရတ္တ** (န) [အပဂတ+လော-
ကုတ္တရ+တ္တ] ကင်းလွတ်သော လောကုတ္တရာ
တရား၏ အဖြစ်။ ဝိသုံယေဝ လောကတော
အပဂကလောကုတ္တရတ္တာ။ သာရတ္ထ၊ ၂။
၂၇၇။

**အပဂတလောဘ** (တိ) [အပဂတ+လောဘ]လို
ချင်ခြင်း – လောဘ – ကင်းသော၊သူ။ ပုတ္တ-
မိတ္တာဒီသု ဝါ သဝိညာဏကေသု ခေနဓညာ-
ဒီသု ဝါ အဝိညာဏကေသု အတ္တနော သန္တ-
ကေသုပိ နိဿင်္ဂတာယ အပဂတလောဘံ။ ဇာ၊
၌၊၄။၁၀။

**အပဂတဝင်္က** (တိ) [အပဂတ+ဝင်္က] အကောက်
အကွေး – ကင်းသော – မရှိသော။ အပဂတ-
ဇိမှ-ကြည့်။

**အပဂတဝတ္ထ** (တိ) [အပဂတ+ဝတ္ထ] အဝတ် –
အဝတ်အစား – ဝတ်စားတန်ဆာ – ကင်း
သော – မရှိသော – မပါသော၊သူ။ ကေစ္စာ
အပဂတဝတ္ထာ ပါကဋဗီဘစ္ဆသမ္ဗာဓဋ္ဌာနာ။
ဇာ၊၌၊၁။၇၂။ အပ၊၌၊၁။၇၄။ (အလားတူ
ဗုဒ္ဓဝံ၊၌။၃၂၉-၌ကား အပဂတဝသနရသနာ-
ဟု ရှိသည်။)

**အပဂတဝတ္ထတာ** (ထိ) [အပဂတဝတ္ထ+တာ]
အဝတ် – အဝတ်အစား – ဝတ်စားတန်ဆာ –
ကင်းသည်၏အဖြစ်။ ဟိရောတ္တပ္ပါဘာဝတော
အပဂတဝတ္ထတာယ နဂ္ဂါ။ ထေရီ၌။၁၂၉။

**အပဂတဝလာဟက** (တိ) [အပဂတ+ဝလာ-
ဟက] မိုးတိမ်ကင်းသော။ သရဒသမယေ
အပဂတဝလာဟကေ....အာကာသေ။ ထေရ၊
၌၊၂။၅၃၂။

**အပဂတဝသနရသန** (တိ) [အပဂတ+ဝသန+
ရသနာ] အဝတ်အစား, ခါးကြိုးတန်ဆာ –
ကင်းသော – မရှိသော၊သူ။ ကေစ္စာ အပ-
ဂတဝသနရသနာ ပါကဋဗီဘစ္ဆသမ္ဗာဓဋ္ဌာ-
နာ။ ဗုဒ္ဓဝံ၊၌။၃၂၉။

**အပဂတဝိဠိမိဂ** (တိ) [ အပဂတ+ဝိဠိမိဂ ]
(ကျား စသော) သားရဲတိရစ္ဆာန် – ကင်း
သော – မရှိသော။ မခုရသလိလာသယံ
အပဂတဝိဠိမိဂဘိံသနကသကုဏံ ပဝိဝေ-

ကက္ခမ် အဿမံ မာပေတွာ။ အဘိ၊ဋ္ဌ၊၁။ ၃၇။ ဇာ၊ဋ္ဌ၊၁။၁၀။ အပ၊ဋ္ဌ၊၁။၁၀။

**အပဂတဝိညာဏ** (တိ) [အပဂတ+ဝိညာဏ] ဝိညာဉ်–ကင်းသော–မရှိသော၊သူ။ ဇီဝိ-တိန္ဒြိယုပစ္ဆေဒေန မတာ ဒါရုက္ခန္ဓသဒိသာ အပဂတဝိညာဏာ။ ဓမ္မ၊ဋ္ဌ၊၁။၁၄၆။ အပ-ဂတဝိညာဏဿ မတဿ မိတ္တာ နာမ န ဟောန္တိ။ ပေတ၊ဋ္ဌ။၂၀၄။ အပေတဝိညာဏ-လည်း ကြည့်။

**အပဂတဝိညာဏတ္တ**(န) [အပဂတဝိညာဏ+တ္တ] ဝိညာဉ်ကင်းသည်၏အဖြစ်။ မဟာရာဇ .... အာဘောဂေါ ဝါ ပတ္ထနာ ဝါ ပရိယုဋ္ဌာနံ ဝါ နတ္ထိ အပဂတဝိညာဏတ္တာ။ ဇာ၊ဋ္ဌ၊၅။၁၀၅။

**အပဂတသံသယ** (တိ) [အပဂတ+သံသယ] ယုံမှားသံသယ – ကင်းသော – မရှိသော၊သူ။ အသံသယ (ဝိမာန၊ဋ္ဌ။၇၇) ကြည့်။

**အပဂတသတ္ထုသာသန**(န)[အပဂတ + သတ္ထု + သာသန] မြတ်စွာဘုရား၏အဆုံးအမ ကင်းသော။ ဂ္ဂတိပိဒံ ဝတ္ထု ဥဒ္ဒမ္မံ ဥဗ္ဗိနယံ အပ-ဂတသတ္ထုသာသနံ။ ဝိ၊၄။၅၀၅။

**အပဂတသဗ္ဗကာဠက** (တိ) [အပဂတ + သဗ္ဗ+ ကာဠက] အလုံးစုံသော–အမည်းအနက်–အညစ်အကြေး – ကင်းသော – မရှိသော၊ စင်ကြယ်သော။ သုမဋ္ဌသုဝဏ္ဏံ အပဂတသဗ္ဗ-ကာဠကံ။ သံ၊ဋ္ဌီ၊၂။၉။

**အပဂတသဗ္ဗသာဌေယျဒေါသ** (တိ)[ အပဂတ+ သဗ္ဗ+သာဌေယျ+ ဒေါသ] အလုံးစုံသော ကောက်ကျစ်စဉ်းလဲခြင်း–အပြစ်–ဒေါသ–ကင်းသော–မရှိသော။ နိဟိတသဗ္ဗဝင်္က-ဒေါသ (မ၊ဋ္ဌီ၊၃။၃၄၅)ကြည့်။

**အပဂတသဘာဝ** (တိ) [အပဂတ+သဘာဝ] ပကတိ–ပင်ကိုယ်–သဘော–ကင်းသော–မရှိသော။ ဝိဂတရူပ(ဒီ၊ဋ္ဌီ၊၃။ဂ)ကြည့်။

**အပဂတသမိဒ္ဓိ** (တိ) [အပဂတ+သမိဒ္ဓိ] ပြီးပြည့်စုံခြင်း ကင်းသော။ အပဂတသမိဒ္ဓိတော သမ္ဘုစ္ဆိန္နကာရဏတ္တာ အပဂတောတိ အတ္ထော။ ထေရ၊ဋ္ဌ၊၁။၂၁၇။ (ဤပုဒ်ကား ပါဠိမှား ဖြစ်ဟန်တူသည်။ သိမ္ပ္ပ၌ အပ္ပဝတ္တိသံသိဒ္ဓိတော-ဟု ရှိသည်။ အပဂတသမိဓတော (လောင်စာကင်းသည်၏အဖြစ်ကြောင့်)ဟုရှိမူ သင့်မြတ်ရာ၏။)

**အပဂတသမ္ဘန္ဓ** (တိ) [အပဂတ+သမ္ဗန္ဓ] အဆက်အစပ်ကင်းသော။ အဋ္ဌိကာနိ အပဂတ-သမ္ဗန္ဓာနိ။ ဒီ၊၂။၂၃၅။ မ၊၁။၇၄။ မ၊၃။၁၃၄။ အံ၊၂။၂၇၅။ (ဒီ၊ဋ္ဌ၊၂။၃၆၃။ မ၊ဋ္ဌ၊၁။၂၇ဂ-တို့လည်း ကြည့်။)

**အပဂတသရီရ**(တိ) [အပဂတ+သရီရ] ကင်းသောကိုယ်ရှိသော။ ဂဏ္ဍသင်္ဃာကာယ အပ-ဂတသရီရာနံ။ မဟာနိ၊ဋ္ဌ။ဂဂ။

**အပဂတသဟာယ** (တိ) [အပဂတ+သဟာယ] အဖော်သဟဲကင်းသော၊ မိတ်ကောင်း ဆွေကောင်း မရှိသော၊ သူ။ အဗ္ဘတီတသဟာယ-ကြည့်။

**အပဂတသာခါပလာသ** (တိ) [အပဂတ+သာခါ +ပလာသ] အခက်,အရွက်–ကင်းသော–မရှိသော။ အပဂတတစပပဋိက-ကြည့်။

**အပဂတသုက္ကဓမ္မ** (တိ) [အပဂတ+သုက္ကဓမ္မ] ဖြူစင်သောတရား–ကင်းသော – မရှိသော၊ သူ။ ကထံ ဟိ နာမ မေ တာတော အပဂတ-သုက္ကဓမ္မံ နိလ္လဇ္ဇံ နဂ္ဂဘောဂ္ဂံ ဥပသင်္ကမိတွာ ပဉ္စံ ပုစ္ဆိဿတိ။ ဇာ၊ဋ္ဌ၊၇။၁၁၉။

**အပဂတသုခုမကာဠက** (တိ) [အပဂတ+သုခု-မ+ကာဠက] သိမ်မွေ့သေးငယ်သော အမည်းအညစ်ကင်းစင်သော။ အပနီတကသာဝ-ကြည့်။

**အပဂတသောက** (တိ) [အပဂတ+သောက] စိုးရိမ်ခြင်း–ကင်းသော–မရှိသော၊သူ။အပ-ဂတသောကံ ကလ္လစိတ္တံ ဝိဒိတွာ....။ ပေတ၊ဋ္ဌ။၃၆။

**အပဂတာယုဉ္စသွာဝိညာဏ** (တိ) [အပဂတ+အာယု+ဉသ္မာ+ဝိညာဏ]အသက်,ကိုယ်ငွေ့, ဝိညာဉ်ကင်းသော၊သူ။

**အပဂတာယုဉ္စသွာဝိညာဏတာ** (ထီ) [အပ-ဂတာယုဉ္စသွာဝိညာဏ + တာ] အသက်, ကိုယ်ငွေ့,ဝိညာဉ်ကင်းသည်၏ အဖြစ်။ အပ-ဂတာယုဉ္စသွာဝိညာဏတာယ မတံ ကဠေဝရံ ပါပကံ နိဟီနံ လာမကံ ဧကေ စောက္ခဇာတိ-ကာ ဇိဂုစ္ဆန္တိ။ ထေရ၊ဋ္ဌ၊၂။၃၇။

**အပဂတုသ္မာဝိညာဏဇီဝိတိန္ဒြိယ** (တိ) [အပဂ-တ+ဉသ္မာ+ဝိညာဏ+ဇီဝိတိန္ဒြိယ] ကိုယ်ငွေ့,ဝိညာဉ်, ဇီဝိတိန္ဒြေကင်းသော၊သူ။ တေန ပဝတ္တိတဝစပ္ပယောဂနိမိတ္တံ အပဂတုသ္မာ-ဝိညာဏဇီဝိတိန္ဒြိယော မတောတိ ဝေါဟာ-ရဿ....။ ဣတိဝုတ်၊ဋ္ဌ။၂၁၉။ (သာရတ္ထ၊၁။ ၃၄၃။ ၎င်း၊၂။၂၅၄။ ဒီ၊ဋီ၊၁။၁၁၃-တို့လည်း ကြည့်။)

**အပဂန္တုံ** (ကြိ၊ဝိ၊) [အပ+ဂမု+တုံ] ဖဲခွါခြင်း-ခွါခြင်း-ရှောင်ခြင်း-ငှါ။ ပုန ပဋိက္ကမိတွာ ပုနပိ အပဂန္တုံ အနိစ္ဆမာနာ....။ ဓမ္မ၊ဋ္ဌ၊၁။ ၂၆၈။ အပဂန္တုံ န သက္ကာ သုံ။ ဇာ၊ဋ္ဌ၊၅။၄၇၈။ မယာ အပဂန္တုံ ဝဋ္ဋတိ။ ဇာ၊ဋ္ဌ၊၆။၂၁၁။

**အပဂန္တုကာမ** (တိ) [အပဂန္တုံ+ကမု+ဏ] ဖဲခွါခြင်း-ခွါခြင်း-ရှောင်ခြင်း-လျှောချခြင်း-ငှါ အလိုရှိသော၊သူ။ သမဏဘာဝ-တော အပဂန္တုကာမော။ ဝိ၊ဋ္ဌ၊၁။၂၁၁။

**အပဂန္တုကာမတာ** (ထီ) [အပဂန္တုကာမ+တာ] ဖဲခွါခြင်းငှါ အလိုရှိသည်၏အဖြစ်။ နိဿရိတု-ကာမတာ အပဂန္တုကာမတာ။ ဝိသုဒ္ဓိ၊ဋီ၊၂။ ၄၅၂။

**အပဂန္တုကာမတာစိတ္တ** (နု) [အပဂန္တုကာမတာ +စိတ္တ] ဖဲခွါခြင်း-ခွါခြင်း-ရှောင်ခြင်း-လျှောချခြင်း - ငှါ အလိုရှိသည်၏ အဖြစ် ဟူသော စိတ်။ စဝိတုကာမတာစိတ္တေနာတိ အပဂန္တုကာမတာစိတ္တေန။ ကင်္ခါ၊ဋီ၊သစ်။ ၁၇၈-၉။

**အပဂန္တွာ** (ကြိ၊ဝိ) [အပ+ဂမု+တွာ] ဖဲခွါ၍၊ ခွါ၍၊ ရှောင်၍။ ဧဝံ အပဂန္တွာ အဋ္ဌာသိ။ အံ၊ဋ္ဌ၊၁။၃၁၇။ ဓမ္မ၊ဋ္ဌ၊၁။၂၅၃။ ဂန္တွာတိ အပဂန္တွာ။ ပေတ၊ဋ္ဌ။၂၆၄။ အထ သက္ကော ပုရောဟိတဿ သရီရတော အပဂန္တွာ....။ ဇာ၊ဋ္ဌ၊၄။၂၇၄။ ကေမန္တံ အပဂန္တွာ အလ္လီယိ-တွာ အဋ္ဌာသိ။ ဇာ၊ဋ္ဌ၊၄။၃၇၇။ တတော အပဂန္တွာ စိန္တေတိ။ မဟာနိ၊ဋ္ဌ။၂၃၇။ ဘဿိ-တွာ အပဂန္တွာ။ သာရတ္ထ၊၂။၂၉၅။

**အပဂန္ဓ** (တိ) [အပ+ဂန္ဓ]အနံ့-ကင်းသော-မရှိသော။ ဗျာပါဒေါ ဟိ ဉပ္ပဇ္ဇမာနော စိတ္တံ အပဂန္ဓံ ကရောတိ န သုစိမနုညဘာဝံ။ သံ၊ဋီ၊ ၂။၂၄၀။

**အပဂဗ္ဘ** (ပု) [အပ+ဂဗ္ဘ။ ရှူ။နှာ-၁၀၇။ နီတိ၊ သုတ္တ။နှာ-၃၆၆-တို့ ကြည့်] (၁) ပဋိသန္ဓေနေ ခြင်းမှကင်းသော၊သူ။(က)နတ်ပြည်ပဋိသန္ဓေ မှ ကင်းသော၊သူ။ (ပုဏ္ဏားအလို)။ (ခ) နောင်အခါ အမိဝမ်း၌ ကိန်းခြင်းမှ ကင်း သော၊သူ။ (ဘုရားအလို)။ (၂) ကဲ့ရဲ့-အပ်-ယုတ်ညံ့-သော ပဋိသန္ဓေနေခြင်း ရှိလတ္တံ့ သော၊သူ။(က)ယုတ်ညံ့သော (နတ်ပြည်ပဋိ-သန္ဓေမှ တပါးသော) ပဋိသန္ဓေရှိသော၊သူ။ (ခ)ယုတ်ညံ့သော အမိဝမ်း၌ ပဋိသန္ဓေနေခြင်းရှိသော၊သူ။(၂-ခုလုံးပုဏ္ဏားအလိုချည်း) အပဂဗ္ဘော ဘဝံ ဂေါတမော။.... အပဂဗ္ဘော သမဏော ဂေါတမော။ ဝိ၊၁။၄။ ဝိ၊၃။၃၃၀။ အံ၊၃။၂၉။ ဂဗ္ဘတော အပဂတောတိ အပ-ဂဗ္ဘော၊ အဘဗ္ဗော ဒေဝလောကူပပတ္တိံ ပါပုဏိတုန္တိ အဓိပ္ပါယော။ ဟီနော ဝါ ဂဗ္ဘော အဿာတိ အပဂဗ္ဘော၊ ဒေဝလော-ကဂဗ္ဘပရိဗာဟိရတ္တာ အာယတိံ ဟီနဂဗ္ဘပဋိ-လာဘဘာဂီတိ၊ ဟီနော ဝါဿ မာတုကုစ္ဆိမှိ ဂဗ္ဘဝါသော အဟောသီတိ အဓိပ္ပါယော။

ဘာဂဝတော ပန ယသ္မာ အာယတိံ ဂဗ္ဘ-သေယျာ အပဂတာ၊ တသ္မာ သော တံ အပဂဗ္ဘတံ....။ဝိ၊ဋ္ဌ၊၁။၁၀၇။ အံ၊ဋ္ဌ၊၃။၂၀၂။ (သာရတ္ထ၊၁။၃၄ဂ-၉။ အံ၊ဋီ၊၃။၂၁၄။ ပါရာ၊ ဂဏ္ဌိ သစ်၊၂။၁၂၇-တို့လည်း ကြည့်။)

**အပဂဗ္ဘတာ** (ထီ) [အပဂဗ္ဘ+တာ] နောင်အခါ ပဋိသန္ဓေနေခြင်းမှ ကင်းသည်၏အဖြစ်။ အပ-ဂဗ္ဘတာယ ဓမ္မံ ဒေသေတိ။ ဝိ၊၃။၃၃၀။ အံ၊ ၃။၂၉။

**အပဂမ** (ပု) [အပ+ဂမု+အ] ဖဲခွါခြင်း၊ မရှိ-ကင်း-မဲ့-ဆိတ်-သုဉ်း-ပျောက်ကွယ်-ခြင်း။ သုခဒုက္ခာနံ အပဂမေ သာတာသာ-တပ္ပဋိက္ခေပဝသေန။ ဒီ၊ဋ္ဌ၊၂။၃၁၅။ မ၊ဋ္ဌ၊၁။ ၂ဂ၂။ အဘိ၊ဋ္ဌ၊၂။၂၅၃။....ဝဋ္ဋဒုက္ခသ္သ အပ္ပ-ဝတ္တိ အပဂမော နိဿရဏံ ပညာယတိ။ ဥဒါန၊ဋ္ဌ။၃၅ဂ။ ဣတိဝုတ်၊ဋ္ဌ။၁၅၅၊၁၇၆။ တေရဟိ မတာသရိရံ တေသံ ဓမ္မာနံ အပဂမာ န ကိဉ္စိ ကိရိယံ ဒဿေတိ။ ထေရ၊ဋ္ဌ၊၂။၉၃။ (ဋင်း။ ၂၄၇၊၄၅၂-တို့လည်း ကြည့်။) ပကဋ္ဌ-တော သုခတော အယနံ အပဂမော ပေစ္စ-ဘာဝေါ။ သာရတ္ထ၊၂။၁၉။ (ဒီ၊ဋီ၊၁။၄၅။ သီ၊ဋီ၊သစ်၊၁။၁၆ဂ။ သံ၊ဋီ၊၁။၃၁။ အနု၊ဋီ၊၁။ ၆၇-တို့လည်း ကြည့်။) ကိလေသေဟိ နိဿဋ္ဌ-တာ, အပဂမော စ။ ဒီ၊ဋီ၊၂။၁ဂ။ အာကိဉ္စ-ညာယတနဿ ဝိသယဘူတော အပဂမော နာမ ဧကော အတ္ထော အတ္ထိ။ မူလဋီ၊၁။ ၁၉၉။ ပဌမာရုပ္ပဝိညာဏဿ အပဂမမေဝ ဝဒတိ။ ဝိသုဒ္ဓိ၊ဋီ၊၁။၄၀၁။

**အပဂမန** (န) [အပ+ဂမု+ယု] (၁) ဖဲခွါခြင်း။ ပစ္ဆိမေန ပညာယ အပဂမနံ။ ဝိ၊ဋ္ဌ၊၁။ဂ၂။ မ၊ဋ္ဌ၊၁။၁၄။ အံ၊ဋ္ဌ၊၁။၁၂။ (ဒီ၊ဋီ၊၁။ဂ။ မ၊ဋီ၊ ၁။ဂ။ သံ၊ဋီ၊၁။ဂ။ အံ၊ဋီ၊၁။၁၁။ သီ၊ဋီ၊သစ်၊ ၁။၁၆။ မူလဋီ၊၁။၄။ နေတ္တိ၊ဋီ။၇-တို့လည်း ကြည့်)။ဟတ္ထပါဒုပ္ပိဋ္ဌကာနံ သန္တဇ္ဇနံ, တေသဥ္စ (ဇနာနံ) အပဂမနေန ပုန ထောကံ နိဒ္ဒုပ-ဂမနံ ဝိယ။ အဘိ၊ဋ္ဌ၊၁။၂၂၆။ မာတာပိတူနံ အပဂမနေန ဝါ အပ္ပဋိသရဏတော။ စရိ-ယာ၊ဋ္ဌ။၂၂၆။ ဥပေက္ခကတာယ တိဏာယပိ အမညမာနဿ တတော အပဂမနံ။ မ၊ဋီ၊ ၁။၄၇။ (၂) ကင်းခြင်း၊ မဖြစ်ခြင်း၊ ချုပ်ပျောက်ခြင်း၊ ကုန်လွန်ခြင်း။ ကာမစ္ဆန္ဒာဒိ-အပဂမနေန မုဒုစိတ္တတံ။ ဝိမာန၊ဋ္ဌ။၁၉ဂ။ ဒုက္ခဝိသေသဿ အပဂမနေ။ ဣတိဝုတ်၊ဋ္ဌ။ ၁၇၉။ အပဂမနဉ္စ အနုပ္ပတ္တိနိရောဓဝသေန။ သာရတ္ထ၊၃။၁၄၀။ ပလ္လင်္ကသတ္တာဟဿ အပ-ဂမနေန။ ဝိမတိ၊၂။ဂ၅။

**အပဂမနကာလ** (ပု) [အပဂမန+ကာလ] ဖဲခွါ-ကင်းကွာ-ရာ အချိန်ကာလ။ ပုတ္တဿ တာဝ ထနပါနတော အပဂမနကာလံ အာဂ-မေဟိ။ ဓမ္မ၊ဋ္ဌ၊၂။၃၃၇။

**အပဂမနဋ္ဌ**(ပု) [အပဂမန+အတ္ထ] (၁) ဖဲခွါ-ခြင်း-ကင်းကွာခြင်း-အနက်။ (တိ) (၂) ဖဲခွါခြင်း-ကင်းကွာခြင်း-အနက်ရှိသော။ ဣတော ခုဒ္ဒကပါဌတော ပဌာယာတိ အပ-ဂမနဋ္ဌေန အထ-သဒ္ဒေန ယုတ္တမပဒါနာနိတိ။ အပ၊ဋ္ဌ၊၁။၁၁၁။

**အပဂမနပစ္စယ** (ပု) [အပဂမန+ပစ္စယ] ကင်းခြင်းဖြင့် အကြောင်းဖြစ်သောတရား၊ ကင်းခြင်းဟူသော အကြောင်း။ စတ္တာရော အပ-ဂမနပစ္စယာ ကထိတာ။ မ၊ဋ္ဌ၊၂။၂၅၁။ အပ-ဂမနေန ဝိဂမေန ပစ္စယာ အပဂမနပစ္စယာ သုခါဒိပ္ပဟာနာနိ။ မ၊ဋီ၊၂။၂၇၅။

**အပဂမနမဂ္ဂ** (ပု) [အပဂမန+မဂ္ဂ] ဖဲခွါ-ထွက်သွား-ကြောင်း လမ်း၊ရေထွက်ပေါက်၊ ရေလွှဲပေါက်။ အပါယမုခ-ကြည့်။

**အပဂမနသမနန္တရ** (တိ) [အပဂမန+သမနန္တရ] ဖဲခွါသည်၏အခြားမဲ့။ သာ ကိရ တတော ဝိမာနတော အပဂမနသမနန္တရမေဝ ဇိဏ္ဏာ ဝုဍ္ဎာ....အဟောသိ။ ပေတ၊ဋ္ဌ။၁၃၉။

**အပဂမပဗဒ္ဓာန** (တိ) [အပဂမ+ပဗဒ္ဓာန] ကင်းခြင်း-မရှိခြင်း-လျှင် နီးစွာသော

အကြောင်းရှိသော။ စက္ခုဝိညာဏံ.... ရူပါရမ္မဏာယ ကိရိယမနောဓာတုယာ အပဂမပဒဋ္ဌာနံ။ အဘိ၊ဋ္ဌ၊၁။၃၀၃။ ဝိသုဒ္ဓိ၊၂။၈၅။

**အပဂမဘာဝ** (ပု) [အပဂမ+ဘာဝ] ကင်းသည်၏ အဖြစ်၊ကင်းခြင်း။ ဝိသုဒ္ဓိ၊ဋီ၊၂။၁၀၃-ကြည့်။

**အပဂမဝိမောက္ခ** (ပု) [အပဂမ+ဝိမောက္ခ] သညာဝေဒနာတို့မှ ကင်းခြင်း–သာလျှင်ဖြစ်သော–ဟူသော–ဝိမောက္ခ၊ သညာဝေဒနာတို့မှ ကင်းလွတ်သော တရား၊ နိရောဓသမာပတ်။ အဋ္ဌမော ပန သဗ္ဗသော သညာဝေဒယိတေဟိ ဝိမုတ္တတ္တာ အပဂမဝိမောက္ခော နာမ။ အဘိ၊ဋ္ဌ၊၂။၄၄၄။ မ၊ဋီ၊၂။၂၄။ အံ၊ဋီ၊၃။၃၁၇။ သညာဝေဒယိတာနံ အပဂမော ဧဝ အပဂမဝိမောက္ခော။ မူလဋီ၊၂။၂၁၄။ နိရောဓသမာပတ္တိ ပန သဗ္ဗသော သညာဝေဒယိတေဟိ ဝိမုတ္တတ္တာ အပဂမဝိမောက္ခော နာမ။ နေတ္တိ၊ဋ္ဌ။၁၆၈။ သညာဝေဒယိတအပဂမော ဧဝ အပဂမဝိမောက္ခော။ နေတ္တိ၊ဋီ။၉၆။

**အပဂမသင်္ခါတ** (တိ) [အပဂမ+သင်္ခါတ] ကင်းခြင်းဟု ဆိုအပ်သော။ ပရိကမ္မမနသိကာရေန အန္တရဟိတေ တသ္မိံ ဝိညာဏေ တဿ အပဂမသင်္ခါတံ အဘာဝမေဝ ပဿန္တော ဝိဟရတိ။ ဝိသုဒ္ဓိ၊၁။၃၂၇။ (ဝိသုဒ္ဓိ၊ဋီ၊၁။၄၀၂-လည်း ကြည့်။)

**အပဂမာတိက္ကမ** (ပု) [အပဂမ+အတိက္ကမ] ကင်းခြင်းကို လွန်ခြင်း။ အာကာသေ ပဝတ္တိတဝိညာဏဿ အပဂမာတိက္ကမတော ....။ အဘိ၊ဋ္ဌ၊၁။၂၅၄။

**အပဂမာနုပဂမန** (န) [အပဂမ+အနုပဂမန] ကင်းခြင်း, မကင်းခြင်း၊ မရှိခြင်း, ရှိခြင်း။ အာယုဥသ္မာဣန္ဒြိယာနံ အပဂမာနုပဂမနံ ဝိသေသော။ ဝိသုဒ္ဓိ၊ဋီ၊၂။၅၃၀။

**အပဂမ္မ** (ကြိ၊ဝိ) [အပ+ဂမု+တွာ] အပဂန္တွာနှင့် အနက်တူ။ ဥပရိဝါတတော အပဂမ္မ....။ မ၊ဋ္ဌ၊၂။၃၄။

**အပဂုဏ** (တိ) [အ+ပဂုဏ] မပွါးအပ်–မများစေအပ်–မလေ့လာအပ်–သော။ အပဂုဏေဟိ ပဌမဇ္ဈာနာဒီဟိ ဝုဋ္ဌိတဿ သညာမနသိကာရာနံ ကာမာဒိအနုပက္ခန္ဒနံ။ ဝိသုဒ္ဓိ၊ဋီ၊၁။၁၁၅။ အပ္ပဂုဏ-လည်း ကြည့်။

**အပဂုဏပါဒကဇ္ဈာန** (န) [အပဂုဏ+ပါဒကဇ္ဈာန] မလေ့လာအပ်သော အခြေခံဈာန်တရား။ အပဂုဏပါဒကဇ္ဈာနတော ဝုဋ္ဌိတဿ ဟိ အဇ္ဈတ္တံ သုညတံ မနသိကရောတော တတ္ထ စိတ္တံ န ပက္ခန္ဒတိ။ မ၊ဋ္ဌ၊၄။၁၁၅။ အနုဋီ၊၁။၅၀။ အပဂုဏပါဒကဇ္ဈာနံ ဟိ ဧတ္ထ "နိယကဇ္ဈတ္တ"န္တိ အဓိပ္ပေတံ။ မ၊ဋီ၊၃။၃၂၇။

**အပဂ္ဃရဏ** (န) [န+ပဂ္ဃရဏ] (၁) မယိုခြင်း။ ဧဝံ ပန အပဂ္ဃရဏတော ဟတ္ထေနပိ ဒ္ဓိဟိပိ တီဟိပိ အင်္ဂုလေဟိ ဂဟေတုံ, ဩဝဋ္ဋိကာယ ဝါ ကာတုံ သက္ကာ။ သီ၊ဋ္ဌ၊သစ်၊၂။၁၃၈။ (တိ) (၂) မယိုသော။ အောက်ပုဒ်နှင့် အဗ္ဘာဟိတ-တို့ ကြည့်။

**အပဂ္ဃရဏကာလ** (ပု) [အပဂ္ဃရဏ+ကာလ] မယိုသော အချိန်အခါ။ မာသာတိက္ကမေန ပနဿာ သောကေန အဿူနံ အပဂ္ဃရဏကာလော နာမ နာဟောသိ။ ဇာ၊ဋ္ဌ၊၇။၃၂။

**အပဂ္ဃရမာန** (တိ) [န+ပဂ္ဃရမာန] မယိုသော။ အပဂ္ဃရမာနာ အပရိဿဝမာနာ ပီဏိတပီဏိတဘာဝံ ဒဿေတိ။ ဝိသုဒ္ဓိ၊၁။၃၆၁။

**အပင်္ဂ** (ပု၊န) [အပ+အင်္ဂ။ ဓာန်-နှင့် ဓာန်၊ဋီ။၂၆၁၊၁၁၁၆-တို့ ကြည့်။ ဤပုဒ်၌ အဝင်္ဂ (ဝိ၊၄။၄၅၈။ ဇာ၊ဋ္ဌ၊၃။၃၉၈။) ဟု ၎င်း, အပါင်္ဂ (ဓာန်-နှင့် သက္ကတ) ဟု ၎င်း, အပံဂ-အဝံဂ (ပြာကြိုဋ်) ဟု ၎င်း ပါဌ်အမျိုးမျိုး

တွေ့ရသည်။ သရီရဂ်သခါတဿ ကဏ္ဏဿ အပ သမီပံ အပါင်္ဂါ။ ဓာန်၊ဋီ။၂၆၁။ အပါင်္ဂတိ တိရိယံ စလတိ နေတ္တံ ယတြ၊ အပ+အင်္ဂ၊ ဃဥ်။.... အပဂတမင်္ဂံ ယဿ။ ဝါစပ္ပတိ။ အပါင်္ဂတိ ဝဏ္ဏံ ဂစ္ဆတိ စက္ခု ယတြ၊ အပ+အင်္ဂ+အဓိကရဏေ ဃဥ်။ ကပ္ပဒြုမ။] (၁) မျက်စိ၏ထောင့်၊ မျက်ထောင့်။ အသိတာပင်္ဂီ (ဇာ၊ဋ္ဌ၊၃။၃၉၈) ကြည့်။ (၂) မှန်ကူ၊ မှန်ကူခြင်း။ (မြေညက်, နံ့သာ, အဆီပါသော လိမ်းဆေးတို့ဖြင့် နဖူး ပေါ်၌ သအပ် ချယ်အပ်သော အရေး ကြောင်း, ကောင်းသော နိမိတ်အမှတ်။) ဓာန်။၁၁၁၆-ကြည့်။ (တိ) (၃) ကိုယ်အင်္ဂါ ချို့တဲ့သော၊သူ။ ဓာန်၊ဋီ။၁၁၁၆-ကြည့်။

**အပစ** (ပု?) [အပ+စာယု (=စာယ+ရ)။ တနည်း အပ+စာယ+အ။ စာယ-ကို စ-ပြု?] ပူဇော်ခြင်း၊ အရိုအသေ ပြုခြင်း။ ဒါနေ စ ဂဟဏေ စေဝ၊ အပစေ ပဒုသေပိ စ။ အပ၊၂။၂၆၂။ ထေရီ၊ဋ္ဌ။၇၄။

**အပစန** (နု) [အ+ပစန] မချက်ခြင်း၊ မဖုတ်ခြင်း၊ မသုတ်သင်ခြင်း။ မလဂ္ဂဟိတပတ္တဿ အပစနေ။ ဝိ၊ဋ္ဌ၊၄။၁၅၉။

**အပစန္တ** (တိ) [နု+ပစန္တ] မချက်သော၊သူ။ နာရဟာမိ ပစန္တော အပစန္တာနံ ဒါနံ နဒါတုံ။ ဒီ၊၃။၂၁၄။ အံ၊၂။၄၄၄။ အပစန္တာပိ ဒိစ္ဆန္တိ။ ဇာ၊၁။၂၁၀။ ပစန္တော အပစန္တဿ။ ဇာ၊၁။၃၀၀။

**အပစမာန** (တိ) [နု+ပစမာန] မချက်သော၊ သူ။ရာဇာ တိတ္တိရမံသံ ခါဒိတုကာမော တိဏ္ဏံ သံဝစ္ဆရာနံ န လဘိ၊ အပစမာနော (သီ-မူ လည်း ဤအတိုင်းပင် ရှိ) ဘိက္ခုသံဃော ကုတော လဘိဿတိ။ သံ၊ဋ္ဌ၊၃။၇၀။

**အပစယ** (ပု) [အပ+စိ+အ] (၁)ဖျက်ဆီးခြင်း။ (၂) ကိလေသာတို့ကို–ဖျက်ဆီးတတ်–ဖျက်ဆီးကြောင်းဖြစ်–သော တရား၊နိဗ္ဗာန်။ အပစယဘူတ-ကြည့်။ (က) ကိလေသာတို့ကို–ဖျက်ဆီးတတ် – ဖျက်ဆီးကြောင်း ဖြစ် –သော နိဗ္ဗာန်၏ အကြောင်းဖြစ်သော တရား၊ သံဝရတရား။ အပစယဿ ဝိရိယာရမ္ဘဿ ဝဏ္ဏံ ဘာသိတွာ။ ဝိ၊၁။၂၄။ ဝိ၊၃။၅၇။ ဝိ၊၄။၃။ (ဝိ၊ဋ္ဌ၊၁။၁၈၇-ကြည့်။) (ခ) ဝဋ်ကို ဖျက်ဆီးခြင်း။ အာစယာယ သံဝတ္တန္တိ နော အပစယာယ။ အံ၊၃။၁၀၇။ နော အပစယာယာတိ န ဝဋ္ဋဝိဒ္ဓံသနတ္ထာယ။ အံ၊ဋ္ဌ၊၃။၂၃၉။ သေက္ခော အပစယေန န တပ္ပတိ။ ဇာ၊ဋ္ဌ၊၃။၃၂၂။ အပစယာရာမ (က)အနက် (သံ၊ဋ္ဌ၊၁။၃၂၂)လည်း ကြည့်။ (ဂ)စုတိပဋိသန္ဓေကို ဖျက်ဆီးခြင်း။ ကတမာ ပညာ အာစယာယ နော အပစယာယ။ အဘိ၊ဝိ။ ၃၄၂။ စတူသု မဂ္ဂေသု ပညာ အပစယာယ နော အာစယာယ။ အဘိ၊ဝိ။၃၄၂-၃။ လောကုတ္တရမဂ္ဂပညာ ပန ယသ္မာ စုတိပဋိသန္ဓိံ အပစိနတေဝ၊ တသ္မာ အပစယာယ နော အာစယာယာတိ ဝုတ္တာ။ အဘိ၊ဋ္ဌ၊၂။၃၉၉။ (၃) မတိုးပွါးခြင်း၊ ဆုတ်ယုတ်–ပျက်စီး–ခြင်း။ အာစယာပစယော ဟောတိ(မ၊၁။ ၃၀၁)တိ ဝဍ္ဍိ စ အဝဍ္ဍိ စ ဟောတိ။ မ၊ဋ္ဌ၊ ၂။၁၈၆။ အာယတိံ ပဉ္စုပါဒါနက္ခန္ဓာ အပစယံ ဂစ္ဆန္တိ။ မ၊၃။၃၃၆။ အာစယောပိ အပစယောပိ အာဒါနမ္ပိ။ သံ၊၁။၃၁၉၊၃၂၁။ အပစယောတိ ပရိဟာနိ။ သံ၊ဋ္ဌ၊၂။၉၀။ (က) အလုံးစုံသော ဝဋ်ဆင်းရဲ၏ – ဆုတ်ယုတ်–ပျက်စီး–ငြိမ်းအေး–ခြင်း၊ နိဗ္ဗာန်။ အာစယာယ သံဝတ္တန္တိ နော အပစယာယ။ ဒီ၊ဋ္ဌ၊၂။၁၅၆။ အပစယာယာတိ သဗ္ဗဿာပိ ဝဋ္ဋဿ အပစယနာယ၊ နိဗ္ဗာနာယာတိ အတ္ထော။ ဒီ၊ဋီ၊၂။၁၆၇။ အပစိတံ ဝါ အပစယော၊ နိဗ္ဗာနံ။ ဝိမာန၊ဋ္ဌ။၁၄၉။ (၄)ဆည်းပူးအပ် – ပွါးစေအပ် – သော အာစယဟူသော စယ-မှ ကင်းသောတရား၊ နိဗ္ဗာန်။ အပစယဂါမီ-ကြည့်။ (က) ကံ,ကိလေသာတို့

သည် – ဆည်းပူးအပ် – ပွါးစေအပ် – သော ပဋိသန္ဓေ, စုတိ, ဂတိ-ဟု ဆိုအပ်သော ဝဋ် တရားမှ ကင်းသောတရား၊ နိဗ္ဗာန်။ အပစယ-ဂါမိ (က)အနက် ကြည့်။ (ခ) (အာသဝ၏ အာရုံဖြစ်သော) ကုသိုလ်, အကုသိုလ်မှ ကင်း သောတရား၊ နိဗ္ဗာန်။ အပစယဂါမီ(၁) (ခ) အနက်ကြည့်။ (ဂ)ကိလေသာရန်သူတို့၏ ပွါး စီးခြင်းမှ–ကင်းသော – ကင်းရာဖြစ်သော – တရား၊ နိဗ္ဗာန်။ အပစယာရာမ (သံဋီ၊၁။ ၃၄၁) ကြည့်။

**အပစယဂါမိစေတနာ** (ထီ) [အပစယဂါမိနီ+ စေတနာ] နိဗ္ဗာန်သို့ သွားရောက်တတ်သော မဂ်–အပစယဂါမီ–စေတနာ။ အပစယဂါ-မိစေတနာ သတ္တာနံ ဝိသုဒ္ဓိ အာဝဟတိ။ သံဋီ၊၁။၁၂၄။ အပစယဂါမိနီစေတနာ-လည်း ကြည့်။

**အပစယဂါမိတာ** (ထီ) [အပစယဂါမီ + တာ] အပစယဂါမီ၏အဖြစ်။ ကမ္မဿ ကဏှသုက္က-သမညာ ကဏှသုက္ကာဘိဇာတိဟေတုတာ-ယာတိ အပစယဂါမိတာယ တဒုဘယဝိဒ္ဓံ-သကဿ ကမ္မက္ခယကရကမ္မဿ ဣဓ သုက္က-ပရိယာယောပိ န ဣစ္ဆိတော။ ဒီဋီ၊၃။၂၄၁။ အံဋီ၊၂။၃၈၇။ (မဋီ၊၃။၄၅-၌ အပစ္စယဂါ-မိတာယ-ဟု ရှိသည်။) ဂေါတြဘုဖလပစ္စ-ဝေက္ခဏာဒီနမ္ပိ အပစယဂါမိတာ အာပဇ္ဇေ-ယျ။ မူလဋီ၊၁။၄၃။ သာ ဟိ အပစယဂါမိ-တာယ သတ္တာနံ သုဒ္ဓိံ အာဝဟတိ။ ဝိသုဒ္ဓိ၊ ဋီ၊၁။၁၁။

**အပစယဂါမိတ္တ** (နှ) [အပစယဂါမီ+တ္တ] အပစ-ယဂါမီ၏ အဖြစ်။ မဂ္ဂဿေဝ ကုသလတ္တာ နိယျာနိကတ္တာ အပစယဂါမိတ္တာ။ ပဋိသံ၊ဋ္ဌ၊ ၁။၃၄၁။

**အပစယဂါမိဓမ္မ** (ပု) [အပစယဂါမီ+ဓမ္မ] နိဗ္ဗာန် သို့ သွားရောက်တတ်သော အရိယမဂ် – အပ-စယဂါမီ–တရား။ ခီဏာသဝေါ ပန သဗ္ဗ-သော အာစယဂါမိဓမ္မေ ပဟာယ အပစယ-ဂါမိဓမ္မေ ပတိဋ္ဌိတော။ ထေရ၊ဋ္ဌ၊၁။၄၀၇။

**အပစယဂါမိနီစေတနာ** (ထီ) [အပစယဂါမိနီ +စေတနာ] နိဗ္ဗာန်သို့ သွားရောက်တတ် သော အရိယမဂ်–အပစယဂါမီ–စေတနာ။ မဋီ၊၃။၄၆။ အံဋီ၊၂။၃၈၈-တို့ ကြည့်။ အပ-စယဂါမိစေတနာ-လည်း ကြည့်။

**အပစယဂါမိပဋိပဒါ** (ထီ) [အပစယဂါမိနီ+ပဋိ-ပဒါ] နိဗ္ဗာန်သို့ ရောက်ကြောင်း ဖြစ်သော အရိယမဂ်–အပစယဂါမီ–အကျင့်။ အပစ-ယဂါမိပဋိပဒါယ ပရိပူရဏတော။ သံဋီ၊၂။ ၂၃၉။

**အပစယဂါမိဘာဝ** (ပု) [အပစယဂါမီ+ဘာဝ] အပစယဂါမီ၏ အဖြစ်။ အရိယမဂ္ဂဿေဝ နိဗ္ဗာနဂါမိပဋိပဒါဘာဝေါ ပရိဗျတ္တောတိ တဿေဝ အပစယဂါမိဘာဝေါ ယုတ္တော။ အနုဋီ၊၁။၄၆။

**အပစယဂါမိဝစန** (နှ) [အပစယဂါမီ+ဝစန] အပစယဂါမီ ဟူသော–စကား–သဒ္ဒါ။ န အပစယဂါမိဝစနမတ္တေန အဝိပါကံ။ အဘိ၊ ဋ္ဌ၊၃။၂၀၃။

**အပစယဂါမိဝိညာဏ** (နှ) [အပစယဂါမီ+ ဝိညာဏ] အပစယဂါမီ ဝိညာဉ်။ အရိယ-မဂ္ဂသဟဂတံ အပစယဂါမိဝိညာဏမ္ပိ။ မဋီ၊ ၂။၂၆၂။

**အပစယဂါမီ** (တိ) [(၁) (၃) အပစယ+ဂမု+ ဏီ။ (၂) အပစယန္တ (အပစယံ)+ဂမု+ဏီ၊ အပစယ+ဂါမီ။မူလဋီ၊၁။၄၃။ အနုဋီ၊၁။၄၆-တို့ကြည့်။ (၃) အပစယ+ဂမု+ဏော+ဏီ။ ထီ၌ **အပစယဂါမိနီ** ] (၁) နိဗ္ဗာန်သို့ သွား ရောက်တတ်သောတရား၊အပစယဂါမီတရား။ (က) ပဋိသန္ဓေ, စုတိ, ဂတိ-ဟု ဆိုအပ်သော ဝဋ်တရားမှကင်းသော နိဗ္ဗာန်သို့ သွားရောက် တတ်သောတရား၊ အရိယမဂ်။ (ခ)ဆည်း ပူးအပ်–ပွါးစေအပ်–သော (အာသဝအာရုံ

ဖြစ်သော) ကုသိုလ်၊ အကုသိုလ်မှ ကင်းသော နိဗ္ဗာန်သို့ သွားရောက်တတ်သောတရား၊အရိယမဂ်။ သဗ္ဗေဝ အပစယဂါမိနော ဟောန္တိ။ ပဋ္ဌာန်။၁၁၂။ ကုသလာကုသလသင်္ခါတာ စယာ အပေတတ္တာ အပစယသင်္ခါတံ နိဗ္ဗာနံ အာရမ္မဏံ ကတွာ ပဝတ္တနတော အပစယံ ဂစ္ဆန္တီတိ အပစယဂါမိနော။ပဋ္ဌာန်ဋ္ဌ၊၁။၃၄၁။ အပစယဂါမိနော ဓမ္မာ။ အဘိ၊ဓ၊၂။၁၆။ အာစယသင်္ခါတာ စယာ အပေတတ္တာ နိဗ္ဗာနံ အပေတံ စယာတိ အပစယော၊ တံ အာရမ္မဏံ ကတွာ ပဝတ္တနတော အပစယံ ဂစ္ဆန္တီတိ အပစယဂါမိနော၊ အရိယမဂ္ဂါနမေတံ အဓိဝစနံ။ အဘိ၊ဋ္ဌ၊၁။၈၆။.... အထ ဝါ ဟေတုဘာဝေန အပစယံ နိဗ္ဗာနံ ဂစ္ဆန္တီတိ အပစယဂါမိနော။ မူလဋ္ဌီ၊၁။၄၃။ လောကုတ္တရံ ကုသလံ သဝိပါကံ အပစယဂါမီတိ? အာမန္တာ။ အဘိ၊က။၂၆၇။ (၂)ဖျက်ဆီးလျက်–ဖျက် ဆီး တတ် သည် ဖြစ်၍ – သွားရောက်တတ်သော တရား။ (က) ပဋိသန္ဓေ၊ စုတိ၊ ဂတိ-ဟုဆိုအပ်သော ဝဋ်တရားကို ဖျက်ဆီးလျက် သွားရောက်တတ်သောတရား၊ အရိယမဂ်။ အပိ စ....တေန စိတံ စိတံ ဗ္ဗူဌကံ ဝိဒ္ဓံသယမာနော ပုရိသော ဝိယ တဒေဝ ပဝတ္တံ အပစိနန္တော ဂစ္ဆန္တီတိ အပစယဂါမိနော။ အဘိ၊ဋ္ဌ၊၁။၈၆။ (မူလဋ္ဌီ၊၁။၄၃။ အနုဋ္ဌီ၊၁။၄၆-တို့လည်း ကြည့်။) (ခ) ဝဋ်ကို ဖျက်ဆီးလျက် သွားရောက်တတ်သောတရား၊ အရိယမဂ်။ ဝဋ္ဋံ အပစိနန္တော ဂစ္ဆတီတိ အပစယဂါမီ။ အဘိ၊ဋ္ဌ၊၃။၁၅၈။ ပဝတ္တံ အပစိနန္တာ ဝိဒ္ဓံသေန္တာ ဂစ္ဆန္တီတိပိ အပစယဂါမိနော။ ပဋ္ဌာန်ဋ္ဌ၊၁။၃၄၁။ (ဂ) (ပဋိသန္ဓေ)ဝိပါက်ကို ဖျက်ဆီးလျက် သွားရောက်တတ်သော တရား၊ အရိယမဂ်။ ဝိပါကံ အပစိနန္တာ ဂစ္ဆန္တီတိ အပစယဂါမိနော။ အဘိ၊ဋ္ဌ၊၃။၂၀၃။ (ဃ) စုတိ၊ ပဋိသန္ဓေကိုငင်း၊ ဝဋ်ကိုငင်း ဖျက်ဆီးလျက် သွားရောက်တတ်သော တရား၊ လောကုတ္တရာကုသိုလ်။ လောကုတ္တရကုသလံ စုတိပဋိသန္ဓိယော စေဝ ဝဋ္ဋဉ္စ အပစိနန္တံ ဂစ္ဆတီတိ အပစယဂါမိ။ အဘိ၊ဋ္ဌ၊၃။၂၀၃။ (င) တေဘူမက ကုသိုလ်သည်–ဆည်းပူးအပ်–ပွါးစေအပ်–သော စုတိ၊ ပဋိသန္ဓေတို့ကို အကြောင်းချို့တဲ့ခြင်းကို ပြုသဖြင့် ဖျက်ဆီးလျက် သွားရောက်တတ်သော တရား၊ လောကုတ္တရာဈာန်၊ မဂ်-၄-ပါးနှင့် ယှဉ်သောဈာန်-၅-ပါး။ လောကုတ္တရံ ဈာနံ ဘာဝေတိ နိယျာနိကံ အပစယဂါမိံ။ အဘိ၊ဓ။၇၂၈၅။ အဘိ၊ဝိ။၁၁၂။ ဒီ၊ဋ္ဌ၊၂။၂၃၅။ သံ၊ဋ္ဌ၊၃။၂၈၇။ ထေရ၊ဋ္ဌ၊၂။၅၄၅။ ပဋ္ဌာန်၊ဋ္ဌ၊၁။၃၀။ ဝိသုဒ္ဓိ၊၂။၂၉၆။ တေဘူမကကုသလေန စိတာ စုတိပဋိသန္ဓိယော ပစ္စယဝေကလ္လကရဏေန အပစိနန္တံ ဝိဒ္ဓံသေန္တံ ဂစ္ဆတီတိ အပစယဂါမိ။ အဘိ၊ဋ္ဌ၊၁။၂၅၉။ (၃) အပစယဟူသောနိဗ္ဗာန်သို့–ရောက်စေတ တ်သော–ရောက်ကြောင်းဖြစ်သော–တရား၊ သမ္မာဒိဋ္ဌိ-စသောတရားများ။ အာစယဂါမိံ ဝေါ ဘိက္ခဝေ ဓမ္မံ ဒေသေဿာမိ အပစယဂါမိဉ္စ။.... ကတမော စ ဘိက္ခဝေ အပစယဂါမီ ဓမ္မော။ သမ္မာဒိဋ္ဌိ ။ပ။ သမ္မာဝိမုတ္တိ။ အံ၊၃။၄၅၄-၅။ (က) နိဗ္ဗာန်သို့ ရောက်စေတတ်သောတရား၊ ပယ်ခြင်း၏ အကြောင်းဖြစ်သော တဏှာ၊ ပဟာနတဏှာ၊ ဥပနိဿယ ပစ္စည်း ဖြစ်သော ဖလူပစာအားဖြင့် ကုသိုလ်ဟု ခေါ်ဆိုအပ်သော တဏှာ။ ကုသလာ အပစယဂါမိနီ ပဟာနတဏှာ။ နေတ္တိ။၇၃။ အပစယံ နိဗ္ဗာနံ ဂမေတီတိ အပစယဂါမိနီ။ ကထံ ပန တဏှာ အပစယဂါမိနီတိ အာဟ"ပဟာနတဏှာ"တိ။ တဒင်္ဂါဒိပ္ပဟာနဿ ဟေတုဘူတာ တဏှာ။ နေတ္တိ၊ဋ္ဌ။၁၄၇။ (နေတ္တိ၊ဝိ။၂၂၈- လည်း ကြည့်။)

**အပစယန** (န) [အပ+စိ+ယု] ဖျက်ဆီးခြင်း။ အပစယ (၁) အနက်ကြည့်။

**အပစယပက္ခိက** (တိ) [အပစယ+ပက္ခ+ဣက] နိဗ္ဗာန်၏ – အဖို့–အသင်းအပင်း – ၌ ဖြစ်သော။ သမာဓိပ္ပမုခါတိအာဒယော ပန အပစယပက္ခိကာတိ ဝေဒိတဗ္ဗာ။ အံ၊ဋ္ဌ၊၃။ ၂၆၅။

**အပစယပညတ္တိ** (ထီ) [ အပစယ+ပညတ္တိ ] အပစယ – နိဗ္ဗာန် – ကို သိစေတတ်သော ပညတ်၊အပစယပညတ်။ "တေသံ သတိမာ"-တိ အပစယပညတ္တိ ပဟာနာယ။ နေတ္တိ။ ၅၂။ "တေသံ သတိမာ"တိ ပညတ္တိ ပဟာ-နာယ အပစယဿ စ ပညာပနတော အပ-စယပညတ္တိ နာမ။ နေတ္တိ၊ဝိ။ ၁၉၃။

**အပစယဂါမိ**... 

**အပစယဘူတ** (တိ) [အပစယ+ဘူတ] ဖျက်ဆီးတတ်သည်–ဖျက်ဆီးခြင်း၏ အကြောင်း–(ဖြစ်၍) ဖြစ်သော၊တရား။ သဗ္ဗကိလေသာ-ပစယဘူတာယ ဝိဝဋ္ဋာယ....။ ဝိ၊ဋ္ဌ၊၁။၁၈၇။ သဗ္ဗ....ဝိဝဋ္ဋာယာတိ ရာဂါဒိသဗ္ဗကိလေသာနံ အပစယဟေတုဘူတာယ နိဗ္ဗာနဓာတုယာ။ သာရတ္ထ၊၂။၂၈။ ဝိမတိ၊၁။၁၀၄။ (ပါရာ၊ ဂဏ္ဌိသစ်၊၂။၄၄၇-လည်း ကြည့်။)

**အပစယဟေတုဘူတ** (တိ) [အပစယ+ဟေတု+ဘူတ] ဖျက်ဆီးခြင်း၏အကြောင်း(ဖြစ်၍) ဖြစ်သော။ အပစယဘူတ-ကြည့်။

**အပစယာရာမ** (တိ) [ အပစယ+အာရာမ ] (က) ဝဋ္ဋ်ကို ဖျက်ဆီးခြင်း၌ မွေ့လျော်သော၊သူ။ (ခ) ကိလေသာရန်သူတို့၏–ကင်းသောပွါးစီးခြင်း–ပွါးစီးမှုကင်းခြင်း–ဟူသော မွေ့လျော်ရာရှိသော၊သူ။ သေက္ခာ အပစယာရာမာ၊ အပ္ပမတ္တာနုသိက္ခရေ။ သံ၊ ၁။၂၃၇။ အပစယာရာမာတိ ဝဋ္ဋဝိဒ္ဓံသနေ ရတာ။ သံ၊ဋ္ဌ၊၁။၃၂၂။ ကိလေသာရီနံ အပေ-တစယောတိ အပစယော၊ သော အာရ-မိတဗ္ဗဋ္ဌေန အာရာမော ဧတေသန္တိ အပ-စယာရာမာ။ သံ၊ဋီ၊၁။၃၄၁။

**အပစာယတိ** (ကြိ) [အပ+စာယု (စာ-ယ)+အ+တိ။ နီတိ၊ဓာ။၁၄၄-ကြည့်။] ပူဇော်–မြတ်နိုး–၏၊ ရိုသေ–လေးစား–၏၊ မိမိကိုယ်ကို နှိမ့်ချသော–အဖြစ်–အမူအရာ–ရှိသည်၏အဖြစ်–သို့ ရောက်၏–ကို ပြ၏။ ယော ဝုဍ္ဍမပစာယတိ။ ဇာ၊၁။ ၉၁။ အပစာယတိ မေဏ္ဍဝရော ယသဿီ။ ၎င်း။၁၀၅။ မာနေတိ ပူဇေတိ အပစိယတိ (အာ-ကို ဣ-ပြု?)။ ဒီ၊၂။၁၁၄။ ခုဒ္ဒကပါဌ။ ၁၀၉။ သုတ္တနိ၊ဋ္ဌ၊၂။၁၅။ အပစေ ဗြဟ္မစာ-ရယော(အံ၊၃။၇၅)တိ ဗြဟ္မစာရိနော အပ-စယတိ (အပစာယတိ ?)၊ နိစဝုတ္တိတံ နေသံ အာပဇ္ဇတိ။ အံ၊ဋ္ဌ၊၃။၂၃၂။ ယေ ဝုဍ္ဍမပစာ-ယန္တိ။ ဝိ၊၄။၃၁၁။ ဇာ၊၁။၉။ အပစာယန္တိ-တိ ဇေဋ္ဌာပစာယိကမ္မေန ပူဇေန္တိ။ ဇာ၊ ဋ္ဌ၊၁။၂၃၆။ န ဗြာဟ္မဏေ အပစာယန္တိ။ ဒီ၊ ၁။၈၆။ န အပစာယန္တီတိ အဘိဝါဒနာဒိဟိ နေသံ အပစိတိကမ္မံ နိစဝုတ္တိံ န ဒဿေန္တိ။ ဒီ၊ဋ္ဌ၊၁။၂၂၈။ အရိယဝတ္တ'သိ ဝက္ကင်္ဂ၊ ယော ပိဏ္ဍမပစာယသိ။ ဇာ၊၂။၉၂။ =ပိဏ္ဍံ သေနာ-ပတိဋ္ဌာနံ ပူဇေသိ။ ဇာ၊ဋ္ဌ၊၅။၃၈၆။ အတိ-မတ္တောသိ သိပ္ပေန၊ ဥရဂံ နာပစာယသိ။ ဇာ၊၂။၂၂၉။ =တွံ ပန .... ဣမံ ဥရဂံ န ပူဇေသိ။ ဇာ၊ဋ္ဌ၊၇။၄၀။ သာမိကံ အပစာယေယျ။ ဇာ၊၂။၂၆၈။ သော ဒါနိ တွံ....န တံ ပိဏ္ဍံ အပစာယိဿသိ။ မ၊ဋ္ဌ၊ ၁။၂၉၇။ သံ၊ဋ္ဌ၊၃။၁၉၆။ အံ၊ဋ္ဌ၊၁။၃၉၃။(ဒီ၊ ဋ္ဌ၊၂။၃၇၉။ အဘိ၊ဋ္ဌ၊၂။၂၆၆-တို့၌ အပစာ-ယိဿတိ-ဟုရှိသည်။)ဘူတာနံ နာပစာယိဿံ။ ဇာ၊၁။၂၄၇။ နာပစာယိဿန္တိ ခန္တိမေတ္တာ-နုဒ္ဒယဝသေန နိစဝုတ္တိကော နာဟောသိံ။ ဇာ၊ဋ္ဌ၊၄။၁၈၀။

**အပစာယန** (နံ) [အပ+စာယု (စာယ)+ယု] (၁) ပူဇော်–မြတ်နိုး–ခြင်း၊ ရိုသေ–လေးစား–ခြင်း၊ မိမိကိုယ်ကို နှိမ့်ချသော–ဖြစ်ခြင်း–အမူအရာ – ရှိသည်၏ အဖြစ်–သို့

ရောက်ခြင်း – ကို ပြုခြင်း၊ ရိုသေ – လေးစား – သော – ကိုယ် – နှုတ် – အမူအရာ။ ဂုဏဝိသိဋ္ဌာနံ အပစာယနံ အကာသိ။ ဝိမာန၊ဋ္ဌ။ ၂၁။ အပစာယနဝသေန ပဝတ္တံ ပုညကိရိယဝတ္ထု။ ဒီ၊ဋ္ဌ၊၃။ ၂၀၆။ ပူဇာဝသေန သာမီစိကိရိယာ အပစာယနံ အပစိတိ။ ၎င်း။ ၂၀၆။ (၂) ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ကြောင်း စေတနာ၊ အရွယ်, ဂုဏ်အားဖြင့် ကြီးသောသူကို မြင်၍ ခရီးဦးကြိုခြင်း,သပိတ် သင်္ကန်း လှမ်းယူခြင်း, ရှိခိုးခြင်း, လမ်းပေး ခြင်း စသည်ဖြင့် ရိုသေ,လေးစားမှုပြုကြောင်း ဖြစ်သော စေတနာ၊ အပစာယန – ကုသိုလ် – ပုညကိရိယဝတ္ထု။ အပစာယတိ ပူဇာဝသေန သာမီစိံ ကရောတိ စေတနာတိ အပစာယနံ....။ဝိဘာဝိနီ။၁၇၆။တတ္ထ ဟိ အပစာယနဝေယျာဝစ္စာနိ သီလမယေ။ ဣတိဝုတ်၊ဋ္ဌ။ ၁၉၆။ အပစာယနသဟဂတ, အပစိတိ, အပစိတိသဟဂတ-တို့လည်း ကြည့်။

**အပစာယနကရ** (တိ) [အပစာယန+ကရ+အ] အပစာယနမှုကို ပြုသော၊ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ခြင်းကို ပြုသော။ သူ။ အပစာယိက-ကြည့်။

**အပစာယနတာ** (ထီ) [အပစာယန+တာ] ပူဇော် – မြတ်နိုး – သည်၏ အဖြစ် – ခြင်း၊ ရိုသေ – လေးစား – သည်၏ အဖြစ် – ခြင်း။ ပိဏ္ဍပါတဿ အပစာယနတာ။ ဒီ၊ဋ္ဌီ၊ ၂။၁၂၉။ (ဒီ၊ဋ္ဌ၊ ၂။၃၇၇။ မ၊ဋ္ဌ၊၁။ ၂၉၇။ သံ၊ဋ္ဌ၊၃။ ၁၉၅။ အံ၊ဋ္ဌ၊၁။၃၉၂-တို့လည်း ကြည့်။)

**အပစာယနပါရိစရိယာ** (ထီ) [အပစာယန+ပါရိစရိယာ] ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ခြင်း, ဆည်းကပ် – လုပ်ကျွေး – ခြင်း။ ဒက္ခိဏေယျာနံ အပစာယနပါရိစရိယာဒိဝသေန။ ပေတ၊ဋ္ဌ။၁၂၀။

**အပစာယနပ္ပတ္တ** (တိ) [အပစာယန + ပတ္တ] ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ခြင်းသို့ ရောက်သော၊ ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – အပ်သည်၏ အဖြစ်သို့ ရောက်သော (ဘာဝပ္ပမာန)၊သူ။ အပစိတ၃-ကြည့်။

**အပစာယနသဟဂတ** (န) [အပစာယန + သဟဂတ] အပစာယန – ကုသိုလ် – ပုညကိရိယဝတ္ထု။(၁) ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ကြောင်းစေတနာ။ (၂)ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ခြင်းနှင့် တကွ ဖြစ်သော စေတနာ၊အသက်,ဂုဏ်အားဖြင့်ကြီး သူတို့ကို မြင်၍ ခရီးဦးကြိုခြင်း,သပိတ်သင်္ကန်း လှမ်းယူခြင်း, ရှိခိုးခြင်း, လမ်းပေးခြင်း စသည် ဖြင့် ရိုသေ,လေးစားမှု ပြုကြောင်းဖြစ်သော စေတနာ။ ဝုဍ္ဎတရံ ဒိသွာ ပစ္စုဂ္ဂမနပတ္တစီဝရပဋိဂ္ဂဟဏာဘိဝါဒနမဂ္ဂသမ္ပဒါနာဒိဝသေန အပစာယနသဟဂတံ ဝေဒိတဗ္ဗံ။ ဣတိဝုတ်၊ ဋ္ဌ။၁၉၅။ အပစိတိ, အပစိတိသဟဂတ-တို့ လည်း ကြည့်။

**အပစာယန္တ** (တိ) [အပ+စာယု (စာယ)+ အ+အန္တ။ ထီ၌ **အပစာယန္တီ**] ပူဇော် – မြတ်နိုး – သော၊ ရိုသေ – လေးစား – သော၊ သူ။ ဓမ္မံ အပစာယန္တိ ခဏံ န ပဿိ။ မိလိန္ဒ။ ၂၀၃။

**အပစာယမာန** (တိ) [အပ+စာယု(စာယ) + အ+မာန] ပူဇော် – မြတ်နိုး – သော၊ ရိုသေ – လေးစား – သော၊ မိမိကိုယ်ကို – နှိမ့်ချသော – ဖြစ်ခြင်း – အမူအရာ – ရှိသော၊သူ။ ဓမ္မံ အပစာယမာနော။ ဒီ၊၃။ ၅၀။ မ၊၁။၁၇၈။ အံ၊၁။၁၀၈။ ပဋိသံ။၃၄၃။ ဓမ္မံ အပစာယမာနောတိ တဿေဝ ဓမ္မဿ အဉ္ဇလိကရဏာဒီဟိ (သက္ကာရဂရုကာရေဟိ။ ပဋိသံ၊ဋ္ဌ၊) နီစဝုတ္တိတံ ကရောန္တော။ ဒီ၊ဋ္ဌ၊၃။ ၃၃။ အံ၊ဋ္ဌ၊ ၂။၇၈။ ပဋိသံ၊ဋ္ဌ၊ ၂။ ၂၂၂။ ဗြဟ္မံ စ ဝဏ္ဏံ အပစာယမာနော(ဇာ၊၁။၃၇)တိ အဟံ ပန တုမှာကံ ဗြဟ္မဝဏ္ဏံ သေဋ္ဌဝဏ္ဏံ ပူဇေန္တော ဂရုံ ကရောန္တော။ ဇာ၊ဋ္ဌ၊ ၂။၁၃။ (ဇာ၊၁။၂၇၃။ မဟာနိ။၁၃၄။ မ၊ဋ္ဌ၊ ၂။၆။

ဓမ္မ၊ဋ္ဌ၊၁။၄၂၅။ ဝိမာန၊ဋ္ဌ။၃၂၇။ နေတ္တိ၊ဋ္ဌ။ ၈-တို့လည်း ကြည့်။)

**အပစာယိက** (တိ) [အပ+စာယု(စာယ)+ဏိ+က] ပူဇော်-မြတ်နိုး-တတ်သော-လေ့ရှိသော၊ ရိုသေ-လေးစား-တတ်သော-လေ့ရှိသော၊သူ။ ကုလေ ဇေဋ္ဌာပစာယိကော (ဇာ၊၂။၁၈၁)တိ ဇေဋ္ဌာနံ မာတာပိတူနံ သက္ကာရကာရကော ဟောတိ။ ဇာ၊ဋ္ဌ၊၆။၁၁၂။ ကုလေ ဇေဋ္ဌာပစာယိကာ-(ပေတ။၁၅၂)တိ ကုလေ ဇေဋ္ဌကာနံ အပစာယနကရာ။ ပေတ၊ဋ္ဌ။၉၈။

**အပစာယိတ** (တိ) [အပ+စာယု (စာယ)+တ။ ပါ၊၇၊၂၃၀။ ကစ္စည်း။၆၄၃။ ရူ။၆၁၉။ နီတိ၊ သုတ္တ။ ၁၂၇၀-တို့ ကြည့်။]ပူဇော်-မြတ်နိုး-အပ်သော၊ ရိုသေ-လေးစား-အပ်သော၊ သူ။ အပစာယိတော မဟိတော၊ ပူဇိတာ’-ရဟိတော’စ္စိတော။ ဓာန်။၇၅၀။ အပစိတ-လည်း ကြည့်။

**အပစာယိတဗ္ဗ** (တိ) [အပ+စာယု (စာယ)+တဗ္ဗ] ပူဇော်-မြတ်နိုး-အပ်သော-ထိုက်သော၊ရိုသေ-လေးစား-အပ်သော-ထိုက်သော၊သူ။ အပစေယျ-ကြည့်။

**အပစာယိတာ** (ထီ) [အပစာယီ+တာ] ပူဇော်-မြတ်နိုး-တတ်သူ-လေ့ရှိသူ-၏ အဖြစ်၊ ရိုသေ-လေးစား-တတ်သူ-လေ့ရှိသူ-၏ အဖြစ်။ နု ကုလေ ဇေဋ္ဌာပစာယိတာ (ဒီ၊ ၃။၅၈)တိ ကုလေ ဇေဋ္ဌာနံ အပစိတိယာ နိစ္စဝုတ္တိယာ အကရဏဘာဝေါ။ ဒီ၊ဋ္ဌ၊၃။၃၇။

**အပစာယီ** (တိ) [အပ+စာယု(စာယ)+ဏီ] ပူဇော်-မြတ်နိုး-တတ်သော-လေ့ရှိသော၊ ရိုသေ-လေးစား-တတ်သော-လေ့ရှိသော၊သူ။ ကုလေ ဇေဋ္ဌာပစာယိနော (သံ၊ ၃။၄၀၆)တိ ကုလေ ဇေဋ္ဌာနံ အပစာယိနော၊ နိစ္စဝုတ္တိနောတိ အတ္ထော။ သံ၊ဋ္ဌ၊၃။၃၃၄။ နု ကုလေ ဇေဋ္ဌာပစာယီ။ အံ၊၁။၁၃၇။ ဝုဍ္ဍာပစာယိနော (ဓမ္မ။၁၀၉)တိ.... ဝုဍ္ဍတရေ ဂုဏဝုဍ္ဍေ အပစာယမာနဿ, အဘိဝါဒနေန ဝါ နိစ္စံ ပူဇေန္တဿာတိ အတ္ထော။ ဓမ္မ၊ဋ္ဌ၊၁။၄၂၅။

**အပစိတ**[1] (တိ) [အပ+စိ+တ။ ကစ္စည်း။ ၆၄၃။ နျာသ။၄၄၁။ ရူ။၆၁၉-တို့ ကြည့်။ တနည်း အပ + စာယ + တ။ စာယ-ကို စိ-ပြု။ နီတိ၊ဓာ။ ၁၄၄-ကြည့်။ သက္ကတ-၌ လည်း စာယ-ကို အချို့ စိ-ပြု၍ အပစာယိတ, အပစိတ-ဟု ၂-ရုပ်ပြုသည်။ ပါ၊ ၇၊၂၊၃၀-ကြည့်။ အပစိတိ-လည်း ကြည့်။] ပူဇော်-မြတ်နိုး-အပ်သော၊ ရိုသေ-လေးစား-အပ်သော၊ သူ။ မာနိတော ပူဇိတော အပစိတော။ ဝိ၊၁။၁၁၅။ ဒီ၊၁။ ၁၁၀။ မ၊၂။၃၇၈။ သံ၊၁။၃၄၀။ ဥဒါန။၈၄။ မဟာနိ။၁၂၉။ မိလိန္ဒ။၂၀။ မ၊ဋ္ဌ၊၁။၉၁။ သံ၊ဋ္ဌ၊၂။၉၄။ အံ၊ဋ္ဌ၊၂။၁၇၃။ သုတ္တနိ၊ဋ္ဌ၊၁။ ၁၆၄။ စရိယာ၊ဋ္ဌ။၄၇။ အပစိတောတိ အပစိတိပ္ပတ္တော။ ဝိ၊ဋ္ဌ၊၂။၇၅။ အပစိတောတိ နိစ္စဝုတ္တိကရဏေန အပစိတော။ သံ၊ဋ္ဌ၊၂။၁၁၅။ အံ၊ဋ္ဋီ၊၂။၁၆၁။ အပစိတောတိ အပစာယနပ္ပတ္တော။ မ၊ဋ္ဋီ၊၁။၁၈၀။ သံ၊ဋ္ဋီ၊၂။၁၀၉။ ဒေဝါနံ အပစိတာ အဟံ။ ဝိမာန။၆။ အပစိတာတိ ပူဇိတာ။ ဝိမာန၊ဋ္ဌ။၃၃။ မေတ္တာယ နိစ္စံ အပစိတာနိ ဟောန္တိ(ဇာ၊၁။၂၂၂)တိ တေ သဗ္ဗေ သတ္တာ.... မေတ္တာဘာဝနာယ အပစိတာ ဟောန္တိ။ ဇာ၊ဋ္ဌ၊၄။၇၆။ (သံ၊၁။ ၁၇၇။ ထေရ။၂၅၆။ အပ၊၁။၃၅၈။ ဇာ၊၂။ ၂၃၄-တို့လည်း ကြည့်။)

**အပစိတ**[2] (တိ)[အပ+စိ+တ] (၁)စီအပ်သော၊ စီ-ချယ်-မွမ်းမံ-အပ်သော။ အပစိတမေစက-ကြည့်။ (နု) (၂) ပျက်စီး-ဆုတ်ယုတ်-ခြင်း။ အောက်ပုဒ် ကြည့်။

**အပစိတတ္တဓမ္မကုသလ** (တိ) [အပစိတ+အတ္တဓမ္မ+ကုသလ](က)အတ္တဓမ္မ-၌ လိမ္မာတော်မူ

သောမြတ်စွာဘုရားကို– ပူဇော်–မြတ်နိုး– ရိုသေ–လေးစား – တတ်သော၊ သူ။ (ခ) အလုံးစုံသော ဝဋ်ဆင်းရဲ၏ပျက်စီး ငြိမ်းအေးမှု နိဗ္ဗာန်၌ရှင်း, ကြွင်းသော အတ္တဓမ္မ-၌ရှင်း လိမ္မာသော၊သူ။ (ဂ) ပူဇော်ထိုက်သော အကျိုးနိရောဓသစ္စာ, အကြောင်းမဂ္ဂသစ္စာ-တို့၌ လိမ္မာသော၊ သူ၊ အရှင်သာရိပုတြာ။ သာပဟ-မပစိတတ္တဓမ္မကုသလံ၊ .... ဥပတိဿံ။ ဝိမာန။ ၅၂။ အတ္တေ စဓမ္မေ စ ကုသလောတိ အတ္တ-ဓမ္မကုသလော၊ ဘဂဝါ။ အပစိတော အတ္တ-ဓမ္မကုသလော စေတေနာတိ အပစိတတ္တဓမ္မ-ကုသလော၊ ဓမ္မသေနာပတိ၊ တံ။ အပစိတံ ဝါ အပစယော၊ နိဗ္ဗာနံ၊ တသ္မိံ, အဝသိဋ္ဌ-အတ္တဓမ္မေ စ ကုသလံ၊ အပစိတေ ဝါ ပူဇနီ-ယေ အတ္တေ ဓမ္မေ နိရောဓေ မဂ္ဂေ စ ကုသလံ။ ဝိမာန၊ဋ္ဌ။၁၄၉။

**အပစိတမေစက** (တိ) [အပစိတ^၂+မေစက] စိချယ်–မှုန်းမံ – အပ်သော–မြီးထူး – မြီးရင်း–ရှိသော။ သုဝါလဓိံ အပစိတမေစကံ သဗ္ဗလက္ခဏသမ္ပန္နံ....။ ဗုဒ္ဓဝံ၊ဋ္ဌ။၂၄၈။

**အပစိတာကာရ** (ပု) [ အပစိတိ+အာကာရ ] ပူဇော်–မြတ်နိုး–သော အခြင်းအရာ။ ဂါရ-ဝေန အပစိတာကာရံ ဒဿေသိ။ ဇာ၊ဋ္ဌ၊၃။ ၄၃၂။

**အပစိတိ** (ထီ) [ အပ+စာယု (စာယ)+တိ။ စာယ-ကို စိ-ပြု။ နီတိ၊ဓာ။၁၄၄-ကြည့်။ သက္ကတ၌ တိ-နှောင်းရာ စာယ-ကို အမြဲ စိ-ပြုသည်။ ပါ၊၇၊၂၊၃၀ (ဝါ) ကြည့်။ တနည်း– အပ + စိ +တိ။ ဓာန်၊ဋီ။၄၂၅-ကြည့်။ အပ-စိတ ^၁ လည်း ကြည့်။] (၁) ပူဇော် – မြတ်နိုး – ခြင်း၊ ရိုသေ – လေးစား – ခြင်း၊ ပူဇော်သည်၏ အစွမ်းဖြင့်–လျော်စွာ – အကြောင်းသင့်အောင် – ပြုလုပ်ခြင်း။ ကတံ အပစိတိံ တယာ။ ဇာ၊၁။ ဂ၆။ ဓမ္မေ အပစိတိ ယထာဘူတ( ထေရ။ ၁၀၆)န္တိ အရိယဓမ္မေ ယာထာဝတော အပ-စာယနံ အာဒရေန အဘိပူဇနံ။ ထေရ၊ဋ္ဌ၊၂။ ၂၀၉-၁၀။ ဓမ္မဿာပစိတိံ ကုမ္မိ။ ဇာ၊၂။၃၂၀။ အပစိတိံ ကရောန္တိ (မဟာနိ။၅၆)တိ အပ-စိတိပုဗ္ဗတ္တံ ကရောန္တိ။ မဟာနိ၊ဋ္ဌ။၁၇၅။ ပူဇာ-ဝသေန သာမီစိကိရိယာ အပစာယနံ အပစိ-တိ။ ဒီ၊ဋီ၊၃။ ၂၀၆။ (ဇာ၊၂။၃၂၀။ မိလိန္ဒ။ ၁၇၉။ မ၊ဋ္ဌ၊၂။၆။ သံ၊ဋ္ဌ၊၂။၂၇။ ဝိမာန၊ ဋ္ဌ။ ၂၂၅။ အပ၊ဋ္ဌ၊၂။၂၅၅။ ဒီ၊ဋီ၊၁။၃၆၃။ သီ၊ဋီ၊သစ်၊၂။၃၇၂။ အံ၊ဋီ၊၁။ဂ၁။ မူလဋီ၊၁။ ၉၉-တို့လည်း ကြည့်။) (၂) အပစာယန (၂) အနက်နှင့်တူ။ အပစိတိ–ကုသိုလ်–ပုညကိရိယဝတ္ထု။ အပစိတိသဟဂတ-ကြည့်။ (၃) ပူဇော်–မြတ်နိုး–ရိုသေ–လေးစား– ကြောင်း ဖြစ်သော (စေတနာနှင့်) ယှဉ်ဖက်တရား။ အပစိတိသဟဂတ (၃) အနက်ကြည့်။

**အပစိတိကမ္မ** (န) [အပစိတိ+ကမ္မ] ပူဇော်– မြတ်နိုး–မှု၊ ရိုသေ–လေးစား–မှု၊ရှိခိုးခြင်း, ခရီးဦးကြိုခြင်း, လက်အုပ်ချီခြင်း, လျော်စွာ– အကြောင်းသင့်အောင်–ပြုလုပ်မှု။ အဘိဝါ-ဒနာဒီဟိ နေသံ အပစိတိကမ္မံ နီစဝုတ္တိံ န ဒဿေန္တိ။ ဒီ၊ဋ္ဌ၊၁။၂၂၈။ အပစိတိကမ္မန္တိ ပဏိပါတကမ္မံ၊ ဒီ၊ဋီ၊၁။၂၉၉။ ယေ ကေစိ သတ္တာ ဇေဋ္ဌာပစိတိကမ္မေ ဆေကာ ကုသ-လာ....။ ဇာ၊ဋ္ဌ၊၁။၂၃၆။

**အပစိတိကရဏ** (န) [အပစိတိ+ကရဏ] ပူဇော်–မြတ်နိုး–ခြင်းကို ပြုခြင်း၊ ရိုသေ– လေးစား–ခြင်းကို ပြုခြင်း။ ဝုဍ္ဍာနံ အပစိ-တိကရဏေန ဝုဍ္ဍာပစာယီ။ သုတ္တနိ၊ဋ္ဌ၊၂။ ၆၆။

**အပစိတိကာတဗ္ဗ** (တိ) [အပစိတိ+ကာတဗ္ဗ] ပူဇော်–မြတ်နိုး–မှု ပြုအပ်သော၊ ရိုသေ– လေးစား–မှု ပြုအပ်သော။ ကေတုနော အပစိတိကာတဗ္ဗဋ္ဌေန ကေတု။ ဗုဒ္ဓဝံ၊ဋ္ဌ။၅၆။

**အပစိတိစေတနာ** (ထီ) [အပစိတိ+စေတနာ] ပူဇော် – မြတ်နိုး – ရိုသေ – လေးစား – ကြောင်း ဖြစ်သောစေတနာ။ အပစိတိသဟ-ဂတ-ကြည့်။

**အပစိတိဒဿန** (ပု) [အပစိတိ+ဒဿန] ပူဇော် –မြတ်နိုး – ရိုသေ – လေးစား – ခြင်းကို ပြခြင်း။ ဒဿဗလဿ အပစိတိဒဿနတ္ထံ။ အဘိ၊ဋ္ဌ၊၁။၅။ အာစရိယဿ အပစိတိဒဿ-နတ္ထံ။ ဝိသုဒ္ဓိ၊ဋီ၊၁။၁၁ဂ-၉။

**အပစိတိပ္ပတ္တ** (တိ) [အပစိတိ+ပတ္တ] ပူဇော်–မြတ်နိုး–ရိုသေ – လေးစား – ခြင်း – အပ် သည်၏ အဖြစ် – သို့ ရောက်သော။ အပစိတ, အပစိတိ-တို့ ကြည့်။

**အပစိတိသဟဂတ** (န) [အပစိတိ + သဟဂတ] အပစိတိသဟဂတ – ကုသိုလ် – ပုညကိရိယ-ဝတ္ထု။ (၁) ပူဇော်–မြတ်နိုး–ရိုသေ–လေး စား–ကြောင်း စေတနာ။ (၂) ပူဇော်–မြတ်နိုး–ရိုသေ–လေးစား –ခြင်းနှင့် တကွ ဖြစ်သော စေတနာ။ သတ္တ ပုညကိရိယဝတ္ထူနိ အပစိတိသဟဂတံ ပုညကိရိယဝတ္ထု ....။ ဒီ၊ဋ္ဌ၊ ၃။၁၈၁။ ဣတိဝုတ်၊ဋ္ဌ။၁၉၅။ အပစိတိစေတ-နာ အပစိတိသဟဂတံ အပစိယတိ တော-ယာတိ ယထာ နန္ဒိရာဂေါ ဧဝ နန္ဒိရာဂသ-ဟဂတာ၊ ယထာဝုတ္တာယ ဝါ အပစိတိယာ သဟဂတံ သဟ ပဝတ္တန္တိ အပစိတိသဟဂတံ။ အပစာယနဝသေန ပဝတ္တံ ပုညကိရိယဝတ္ထု။ ဒီ၊ဋီ၊၃။၂၀၆။ အပစိတိသဟဂတံ။ အဘိ၊ဋ္ဌ၊ ၁။၂၀၁။ အပစိတိ ဧဝ အပစိတိသဟဂတံ ပုညကိရိယာဝတ္ထု ယထာ "နန္ဒိရာဂသဟ-ဂတာ"တိ။ မူလဋီ၊၁။၉၉။ (၃) ပူဇော်–မြတ်နိုး–ရိုသေ – လေးစား – ကြောင်း ဖြစ်သော (စေတနာနှင့်) ယှဉ်ဖက်တရား များနှင့် တကွဖြစ်သော စေတနာ။ (၄) ပူဇော်–မြတ်နိုး–ရိုသေ–လေးစား–သော ကိုယ်, နှုတ် အမူအရာနှင့် တကွ ဖြစ်သော စေတနာ။ အပစိတိ ဝါ စေတနာသမ္ပယုတ္တ-ကမ္မော ကာယဝစီကိရိယာ ဝါ၊ တံသဟိတာ စေတနာ အပစိတိသဟဂတံ။ မူလဋီ၊၁။၉၉။

**အပစိတွာ** (ကြိ၊ဝိ) [န+ပစိတွာ] မချက်–မပြုတ်–မူ၍။ မဟာသတ္တောပိ တဿ ဒတွာ ပုန အပစိတွာ ပီတိသုခေနေဝ ဝီတိနာမေတွာ။ ဇာ၊ဋ္ဌ၊၄။၂၃၉။

**အပစိနတိ = အပစိနာတိ** (ကြိ) [အပ+စိ+နာ+တိ] (၁) ဖျက်ဆီး၏။ အရိယသာ-ဝကော အပစိနာတိ နော အာစိနာတိ။ သံ၊ ၂။၇၃။ အပစိနာတိ နော အာစိနာတီတိ ဝဋ္ဋံ ဝိနာသေတိ၊ နေဝ စိနာတိ။ သံ၊ဋ္ဌ၊၂။ ၂၇၂။ အရဟာ အပစိနတီတိ။ အဘိ၊က။ ၇၉။ လောကုတ္တရံ ပန တေန အာစိတမ္ပိ အပစိနာတိ။ အဘိ၊ဋ္ဌ၊၁။၃၂ဂ။ ကိလေသေ စေဝ ကိလေသမူလကေ စ ဓမ္မေ အပစိနတိ။ အဘိ၊ဋ္ဌ၊၂။၃၉၉။ (မဟာနိ။၁၆။ စူဠနိ။ဂ၅။ မဟာနိ၊ဋ္ဌ။၇၆-တို့လည်း ကြည့်။) **အပစိနန္တိ** န အာစိနန္တိ။ ဝိသုဒ္ဓိ၊ဋီ၊၁။ဂဂ။ **အပစိနေ-ထေဝ** ကာမာနံ၊ **အပ္ပိစ္ဆဿ** အလောလုပေါ။ ဇာ၊၁။၂၄၆။ အပစိနေထေဝါတိ ဝိဒ္ဓံသေ-ထေဝ။ ဇာ၊ဋ္ဌ၊၄။၁၇၅။ (၂) စူးစမ်း၏၊ စောင်းငဲ့၍ – ပြန်၍ – ကြည့်၏။ ဝစ္ဆကဥ္စ အပစိနတိ။ မ၊၁။၃၉၉။ ဝစ္ဆကဥ္စ အပ-စိနာတီတိ ဝစ္ဆကဥ္စ အပလောကေတိ။ မ၊ဋ္ဌ၊ ၂။၃၀၀။ အပစိနာတီတိ အပဝိနတိ၊ အာလောကေတီတိ အတ္ထော၊ တေနာဟ "အပလောကေတီ"တိ။ မ၊ဋီ၊ ၂။၃၀၉-၁၀။ အပဝိဏတိ,အပဝေဏတိ-တို့လည်း ကြည့်။

**အပစိနန** (န) [အပ+စိ+နာ+ယု] မတိုးပွါး–ဆုတ်ယုတ်–ခြင်း။ အနာဟာရအပ္ပါဟာရ-တာဒိဝသေန ကာယဿ အပစိနနံ ခေဒနံ ပရိစ္စဇိတွာ။ မ၊ဋီ၊ ၂။ ၂၁၀။

**အပစိနန္တ** (တိ) [အပ+စိ+နာ+အန္တ] ဖျက်ဆီးသော၊သူ။ အရဟာ အာစိနန္တော အပစိနန္တော။ အဘိ၊က။၄၄၃။ ဝေ အပစိနတော ဒုက္ခံ။ သံ၊၂။၂၉၇။ ထေရ။၃၂၉။ ဝေ အပစိနတော ဒုက္ခန္တိ....ဝဋ္ဋဒုက္ခံ အပစိနန္တဿ။ ထေရ၊ဋ္ဌ၊၂။၃၀၄။အပစိနန္တော ဝိဒ္ဓံသေန္တော။ အဘိ၊ဋ္ဌ၊၁။၂၅၉။ အပစိနန္တာ ဝိဒ္ဓံသေန္တာ။ ပဋိသံ၊ဋ္ဌ၊၁။၃၄၁။အပစယဂါမိ-လည်းကြည့်။

**အပစိနိတဗ္ဗ** (တိ) [အပ+စိ+နာ+တဗ္ဗ]ဖျက်ဆီးအပ်သော။ ကုဋ္ဌာ အပစိနိတဗ္ဗာ။ ဝိ၊ဋ္ဌ၊၂။၁၅၈။ အပစိနိတဗ္ဗာတိ ဝိဒ္ဓံသေတဗ္ဗာ။ သာရတ္ထ၊၂။၃၃၆။

**အပစိနိတွာ** (ကြိ၊ဝိ) [အပ+စိ+နာ+တွာ] ဖျက်ဆီး၍။ အပစိနိတွာ ဌိတော။ သံ၊၂။ ၇၄။ အဘိ၊က။၇၉။ မဟာနိ။၁၆။ စူဠနိ။ ၈၅။ အပစိနိတွာ ဌိတောတိ....ကိလေသေ ဝိဒ္ဓံသေတွာ ဌိတော။ မဟာနိ၊ဋ္ဌ။၇၆။

**အပစိယတိ** (ကြိ) [အပ+စာယု (စာယ)+အ+တိ] ပူဇော်–မြတ်နိုး –၏၊ ရိုသေ–လေးစား–၏။ အပစာယတိ,အပစိတိသဟဂတ-တို့ ကြည့်။

**အပစုရ** (တိ) [န+ပစုရ] (က) မများသော၊ နည်းသော။ အပစုရတာ-ကြည့်။ (ခ) မထင်ရှားသော။ အနိယမိတဝသေနေဝ ယထာလာဘတော ဝတ္ထပေတွာ အယဥ္စ နယော အပစုရော။ ဒီ၊ဋီ၊၂။၈။ဥတ္တာနံ ဝုစ္စတိ ပါကဋံ၊ တပ္ပဋိက္ခေပေန အနုတ္တာနံ အပါကဋံ,ပဋိစ္ဆန္နံ, အပစုရံ။ ဒီ၊ဋီ၊၃။၂၄။

**အပစုရတာ** (ထိ) [အပစုရ+တာ] မများသည်၏ အဖြစ်၊ နည်းသည်၏ အဖြစ်။ အပစုရတာယ အစ္စရိယော။ ဝိသုဒ္ဓိ၊ဋီ၊၁။၃၄၈။

**အပစုရတ္တ** (တိ) [အပစုရ+တ္တ] မများသည်၏ အဖြစ်၊ နည်းသည်၏အဖြစ်။ ဒိဋ္ဌမဗ္ဗိပါကဿ အပစုရတ္တာ အပါကဋတ္တာ စ။ သံ၊ဋီ၊၂။၄၀၄။

**အပစုရဘာဝ** (ပု) [အပစုရ+ဘာဝ]မထင်ရှားသည်၏အဖြစ်။ ဣတရေ ပန အပစုရဘာဝတော န ဝုတ္တာ။ အံ၊ဋီ၊၂။၁၃၇။ သော ပန အပစုရဘာဝတော.... န ဒဿိတောတိ ဝေဒိတဗ္ဗံ။ ဝိသုဒ္ဓိ၊ဋီ၊၂။၃၂၃။

**အပစုရဝေါဟာရ** (ပု) [အပစုရ+ဝေါဟာရ] မထင်ရှားသော–ဝေါဟာရ–အသုံးအနှုန်း–စကား။ အပစုရဝေါဟာရေန (အပ္ပစုရဝေါဟာရေန၊ ပဋိသံ၊ဋ္ဌ) ဝတ္တဗ္ဗော ယထာရုတံ အဂ္ဂဟေတွာ အဓိပ္ပါယဿ နေတဗ္ဗတော နေယျော။ မဟာနိ၊ဋ္ဌ။၂၅၇။ ပဋိသံ၊ဋ္ဌ၊၂။၂၅၆။

**အပစေတဗ္ဗ** (တိ) [အပ+စာယု (စာယ)+တဗ္ဗ] ပူဇော်–မြတ်နိုး–အပ်သော၊ ရိုသေ–လေးစား–အပ်သော။ မာနေတဗ္ဗော ပူဇေတဗ္ဗော အပစေတဗ္ဗော။ ဒီ၊၁။၁၁၀။

**အပစေယျ** (တိ) [အပ+စာယု (စာယ)+ဏျ] ပူဇော်–မြတ်နိုး–အပ်–ထိုက်–သော၊ ရိုသေ–လေးစား–အပ်–ထိုက်–သော၊သူ။ အပစိတော'ပစေယျာနံ၊ တဿ ဣစ္ဆာမိ ဟာတဝေ။ သံ၊၁။၁၇၇။ ထေရ။၂၅၆။ တေသံယေဝ အပစိတိကာတဗ္ဗာတိ အပစေယျာ။ သံ၊ဋ္ဌ၊၁။၂၃၈။ "အပစယေယျာ"တိ ဝတ္တဗ္ဗေ ယ-ကာရလောပံ ကတွာ "အပစေယျာ"တိ ဝုတ္တံ။ သံ၊ဋီ၊၁။၂၇၆။ အပစေယျာနံ အပစာယိတဗ္ဗေဟိ မဟေသီဟိ ခီဏာသဝေဟိ အပစိတော။ ထေရ၊ဋ္ဌ၊၁။၃၉၈။ အပ၊ဋ္ဌ၊၂။၂၉၈။

**အပစ္စ** (နပုံ၊တိ) [န+ပတ+ယ။ နရကေ န ပတန္တိ ဧနေန ဇာတေနာတိ အပစ္စံ၊ ပတဂတိယံ၊ ယော၊ တျဿ စော၊ န ပတာတိ န ဝိစ္ဆိန္နတိ ဝံသော ဧတေနာတိ ဝါ အပစ္စံ၊ ပုတ္တော ဓီတာ စ။ နိစ္စနပုံသကောယံ။ ဓာန်၊ဋီ။၂၄၀။ ဓာန်၊ဋီ၊သျ-ဥ၌ အပစ္စ-သဒ္ဒါ ဝါစ္စလိင် (တိလိင်) ဟု ဆိုးဖြတ်သည်။ မဏိမဥ္ဇူ၊၂။၆။

မောဂ်၊နိသျ။ ၅၅၉-တို့လည်း ကြည့်။ (အပ-တျ-သံ) ] (၁) အပါယ်ငရဲသို့ မကျကြောင်း ဖြစ်သော၊ အမျိုးအနွယ် မပြတ်ကြောင်းဖြစ်သော၊ သား သ္မီး။ ဗန္ဓုပါဒါပစ္စာ (ဒီ၊၁။၈၅)-တိ ဧတ္ထ....ပါဒါနံ အပစ္စာ ပါဒါပစ္စာ။ ဒီ၊ဋ္ဌ၊၁။ ၂၂၇။ အပစ္စာတိ ပုတ္တာ။သီ၊ဋီ၊သစ်၊၂။ ၂၅၀။ မနုနော အပစ္စာတိ မနုဿာ။ ခုဒ္ဒကာ၊ဋ္ဌ။၁၀၃။ သုတ္တနိ၊ဋ္ဌ၊၂။၉။ ယံ အပစ္စံ ကုသ္မိံ မုဒ္ဒံ ဝါ၊ တတ္ထ လောကေ မာဏဝဝေါဟာရော။ မ၊ဋီ၊ ၃။၃၇၁။ (၂) အဆက်အနွယ်၊ အဆက်အနွယ်ဖြစ်သော။အပစ္စေ သြက္ကာကရာဇဿ၊ သကျပုတ္တော ပဘင်္ကရော။ သုတ္တနိ။၄၃၀။ စူဠနိ။ ၂။ အပစ္စေတိ အနုဝံသော။ သုတ္တနိ၊ ဋ္ဌ၊၂။ ၂၉၇။

**အပစ္စက္ကောသန** (န) [န+ပတိ+အက္ကောသန] တဖန်ပြန်၍ မဆဲရေးခြင်း။ ခိဏာသဝဿ အက္ကောသန္တံ ဝါ အပစ္စက္ကောသနံ, ပဟရန္တံ ဝါ အပ္ပဋိပဟရဏံ။ ဓမ္မ၊ဋ္ဌ၊ ၂။၃၉၉။

**အပစ္စက္ခ** (တိ) အပ္ပစ္စက္ခ-ကြည့်။

**အပစ္စက္ခကတ** (တိ) အပ္ပစ္စက္ခကတ-ကြည့်။

**အပစ္စက္ခကမ္မ** (န) အပ္ပစ္စက္ခကမ္မ-ကြည့်။

**အပစ္စက္ခကာရိတာ** (ထီ) အပ္ပစ္စက္ခကာရိတာ-ကြည့်။

**အပစ္စက္ခကာရီ** (တိ) အပ္ပစ္စက္ခကာရီ-ကြည့်။

**အပစ္စက္ခကိရိယာ** (ထီ) [န + ပစ္စက္ခကိရိယာ] မျက်မှောက် မပြုခြင်း၊ မျက်မြင် ကိုယ်တွေ့ မသိခြင်း။ အပ္ပဋိဝိဇ္ဈနေန အပစ္စက္ခကိရိယာ-ယ။ အံ၊ဋ္ဌ၊၂။၂၄၉။

**အပစ္စက္ခဂုဏ** (ပု) [န+ပစ္စက္ခဂုဏ] (၁) မျက်မှောက် မဟုတ်သော - ဂုဏ် - ကျေးဇူး။ (တိ) (၂) မျက်မှောက်ဖြစ်သော-ဂုဏ်-ထင်ရှားခြင်း-မရှိသော။ တံ အဒ္ဓေန တမသိ ကတံ ဝိယ ကိဉ္စိဒေဝ ရူပကမ္မံ အပစ္စက္ခဂုဏံ၊ တာဒိသေ တဝ အပစ္စက္ခဂုဏေ ပါဏသဥ္စနေ ....။ ဇာ၊ဋ္ဌ၊၅။၃၆၃။

**အပစ္စက္ခဓမ္မ** (ပု) [အပစ္စက္ခ+ဓမ္မ] မျက်မှောက် မဟုတ်သော တရား၊ မမြင်မသိသော တရား။ ကိံ ပန ဘဂဝတော အပစ္စက္ခဓမ္မော နာမ အတ္ထီတိ၊ နတ္ထိ။ ဒီ၊ဋ္ဌ၊၃။၁၄၄။

**အပစ္စက္ခဘာဝ** (ပု) အပ္ပစ္စက္ခဘာဝ-ကြည့်။

**အပစ္စက္ခာတ** (တိ) အပ္ပစ္စက္ခာတ-ကြည့်။

**အပစ္စက္ခာတသိက္ခ** (တိ) [အပစ္စက္ခာတ+သိက္ခာ] မပယ်-မပစ်-မစွန့် - မချ - အပ်သော သိက္ခာရှိသော၊သူ။ န အပစ္စက္ခာတသိက္ခာပိ မေထုနဓမ္မေန ပါရာဇိကာ ဟောမိ။ ကင်္ခါ၊ဋီ၊ဟောင်း။ ၂၀။

**အပစ္စက္ခာန** (န) အပ္ပစ္စက္ခာန-ကြည့်။

**အပစ္စက္ခိတ္ဗာ**(ကြိ၊ဝိ) အပ္ပစ္စက္ခိတ္ဗာ-ကြည့်။

**အပစ္စတ္တနိယတ** (တိ) [န+ပစ္စတ္တ+နိယတ] အသီးအသီး - တဦးချင်း-၏-မြဲသော-နိယတ-တရား-မဟုတ်သော။ ပစ္စတ္တနိယ-တောတိ ပါဋိပုဂ္ဂလိကော၊ ဣတရဿာတိ အပစ္စတ္တနိယတဿ။ နေတ္တိ၊ဋီ။၇၃။

**အပစ္စတ္ထရဏက** (တိ) [န+ပစ္စတ္ထရဏ+က] အခင်းမရှိသော။ ယံ သုဒ္ဓံ အာသနမေဝ ဟောတိ အပစ္စတ္ထရဏကံ။ ဝိ၊ဋ္ဌ၊၂။၆၁။

**အပစ္စတ္ထရိတ္ဗာ** (ကြိ၊ဝိ) [န+ပတိ+အာ+ထရ+တွာ] မခင်းမူ၍။ သံဃိကမဉ္စေ ပန အပ္ပစ္စတ္ထရိတ္ဗာ။ ဝိ၊ဋ္ဌ၊၂။၁၂၄။ သံဃိကမဉ္စံ အနာဒရေန အပစ္စတ္ထရိတ္ဗာ နိပဇ္ဇိ။ သံ၊ဋ္ဌ၊၁။၂၇၆။

**အပစ္စတ္ထိက** (တိ) [န+ပစ္စတ္ထိက] ရန်သူမဟုတ်သော၊ သာသနာ့ရန်သူမဟုတ်သော၊ ဖောက်ပြန်-မှားယွင်း-သော အယူမရှိသော၊သူ။ အပစ္စတ္ထိကာနံ, အသမိတာဗာဟိတပါပါနဉ္စ သမဏဗြာဟ္မဏာနံ။ ဒီ၊ဋီ၊၁။ ၂၃၆။ အပစ္စတ္ထိ-ကာနံ သမိတဗာဟိတပါပါနဉ္စ သမဏဗြာဟ္မ-ဏာနံ....။ အံ၊ဋီ၊၂။၁၅၃။ အပစ္စတ္ထိကာနံ အသမိတပါပါနံ အဗာဟိတပါပါနဉ္စ သမဏ-

ဗြဟ္မဏာနံ။ သံ၊ဋ္ဌိ၊၁။၂၃၈။ ပစ္စတ္ထိက (သာရတ္ထ၊၁။၁၉၂) လည်း ကြည့်။

**အပစ္စတ္ထိကပဋိပဒါ** (ထီ) [အပစ္စတ္ထိက+ပဋိပဒါ] မဆန့်ကျင်သော အကျင့်။ အပစ္စနိကပဋိ-ပဒါ-ကြည့်။

**အပစ္စထ** (ကြိ) ပစ္စတိ-ကြည့်။

**အပစ္စနိက** (တိ) [န+ပစ္စနိက] မဆန့်ကျင်သော၊ ဆန့်ကျင်ဖက်မဟုတ်သော။ ကေကမ္ဗ-ဋ္ဌာနမ္ပိ အပစ္စနိကံ နာမ နတ္ထိ။ အဘိ၊ဋ္ဌ၊၂။ ၁၁၁။ ပဋိသံ၊ဋ္ဌ၊၁။၁၅၄။ (ဝိမတိ၊၁။၂၃။ သီ၊ဋ္ဌိ၊သစ်၊၁။၁၂၁။ အံ၊ဋ္ဌိ၊၂။၈၄။ ဝိသုဒ္ဓိ၊ဋ္ဌိ၊ ၁။၂၇၈-တို့လည်း ကြည့်။)

**အပစ္စနိကတာ** (ထီ) [အပစ္စနိက+တာ] မဆန့်ကျင်သည်၏အဖြစ်။ အယဉ္စ သမ္မာဒိဋ္ဌိ သမ္မာ-သင်္ကပ္ပေါ သမ္မာဝါစာ အရိယာနံ အပစ္စနိ-ကတာ။ မ၊၂။၆၅။ အပစ္စနိကပဋိပဒါ-လည်း ကြည့်။

**အပစ္စနိကတ္တ** (နပုံ) [အပစ္စနိက+တ္တ] မဆန့်ကျင်သည်၏အဖြစ်။ သမာဓိဿ ပန အပစ္စနိ-ကတ္တာ။ မ၊ဋ္ဌိ၊၂။၂၁၁။

**အပစ္စနိကဒဿန** (နပုံ) [အပစ္စနိက+ဒဿန]မဆန့်ကျင်သည်၏အဖြစ်ကို မြင်ခြင်း။ အနုလော-မိက (၃) အနက် ကြည့်။

**အပစ္စနိကပဋိပတ္တိ** (ထီ) [အပစ္စနိက+ပဋိပတ္တိ] မဆန့်ကျင်သော အကျင့်၊ နိဗ္ဗာန် – မဂ်ဉာဏ် – အား – မဆန့်ကျင်သော – လျော်သော – အကျင့်။ အာဘိသမာစာရိကဝတ္တံ အာဒိံ ကတွာ သမ္မာ အပစ္စနိကပဋိပတ္တိယံ ယောဇီ-တော။ မ၊ဋ္ဌ၊၃။၂။ အပစ္စနိကပဋိပဒါ-လည်း ကြည့်။

**အပစ္စနိကပဋိပဒါ** (ထီ) [အပစ္စနိက+ပဋိပဒါ] မဆန့်ကျင်သော အကျင့်၊ နိဗ္ဗာန် – မဂ်ဉာဏ် – အား – မဆန့်ကျင်သော – လျော်သော – အကျင့်၊ သစ္စာနုလောမိကဉာဏ် – ဝိပဿနာဉာဏ် – ဟူသော အကျင့်။ အနု-လောမပဋိပဒါယ အပစ္စနိကပဋိပဒါယ .... ။ မဟာနိ။၁၁။ အပစ္စနိကပဋိပဒါယာတိ န ပစ္စနိကပဋိပဒါယ၊ အပစ္စတ္ထိကပဋိပဒါယ။ မဟာနိ၊ဋ္ဌ။၅၅။ အနုလောမပဋိပဒံ အပစ္စနိ-ကပဋိပဒံ။ မဟာနိ။၂၄။ စူဠနိ။၁၄၅။ ဝိသုဒ္ဓိ၊ ၁။၂၁၂။ အနုလောမပဋိပဒံ အပစ္စနိက-ပဋိပဒန္တိ ဣမိနာ ဉာယပ္ပဋိပတ္တိံ။ ပဋိပဇ္ဇိ-တဗ္ဗဿ ဟိ နိဗ္ဗာနဿ အနုလောမနေ, အပစ္စနိကတာယ စဿာ ဉာယတော။ ဝိသုဒ္ဓိ၊ ဋ္ဌိ၊၁။၂၇၈။ အပစ္စနိကပဋိပဒါယ(ဝိသုဒ္ဓိ၊၁။ ၁၇၁)န္တိ မဂ္ဂဿ အနုလောမပဋိပဒါယံ သစ္စာနုလောမိကာယံ ဝိပဿနာယံ။ ဝိသုဒ္ဓိ၊ ဋ္ဌိ၊၁။၂၀၀။

**အပစ္စဘာဝ** (ပုံ) [အပစ္စ+ဘာဝ] သား – သမီး – အမျိုးအနွယ် – ၏ အဖြစ်။ လောကိယာ ပန "မနုနော အပစ္စဘာဝေန မနုဿာ" တိ ဝဒန္တိ။ ဝိမာန၊ဋ္ဌ။၁၇။ သာရတ္ထ၊၁။၂၉၁။ ဒီ၊ဋ္ဌိ၊၃။၁၀၂။ (ပါ၊၄၊၁၊၁၆၁-ကြည့်။)

**အပစ္စဘူတ** (တိ) [အပစ္စ+ဘူတ] သား – သမီး – အမျိုးအနွယ် – (ဖြစ်၍)ဖြစ်သော၊ မွေးဖွား သော – သား – သမီး – အမျိုးအနွယ်။ မဟာ-ဗြဟ္မုနော ပါဒါနံ အပစ္စဘူတော၊ ပါဒတော ဇာတောတိ အဓိပ္ပါယော။ ဒီ၊ဋ္ဌ၊၃။၄၆။ ပါဒါ-ပစ္စ (ဒီ၊ဋ္ဌိ၊၃။၃၇) လည်း ကြည့်။

**အပစ္စယ** (တိ) အပ္ပစ္စယ-ကြည့်။

**အပစ္စယအမတနိဗ္ဗာန** (နပုံ) [အပစ္စယ+အမတ+နိဗ္ဗာန] သင်္ခါရ-ဟူသော အကြောင်းကင်းသော မသေရာနိဗ္ဗာန်၊ အပစ္စယအမတနိဗ္ဗာန်။ အပစ္စယအမတနိဗ္ဗာနတ္ထာယ န သံဝတ္တနိကံ။ မဟာနိ၊ဋ္ဌ။၃၈၉။

**အပစ္စယဂါမိတာ** (ထီ) [အပစ္စယဂါမီ+တာ] အပစ္စယဂါမီ၏ အဖြစ်။ ကမ္မဿ ကဏှ-သုက္កသမညာ ကဏှသုက္ကာဘိဇာတိဟေတု-တာယာတိ အပစ္စယဂါမိတာယ တဒုဘယ-ဝိနိမုတ္တဿ ကမ္မက္ခယကရကမ္မဿ ဣဓ သုက္က-

ပရိယာယေပိ န ဝုစ္စတိ။ မ၊ဋ္ဌ၊၃။၄၅။ (ဒီ၊ဋ္ဌ၊၃။၂၄၁။ အံ၊ဋ္ဌ၊၂။၃၇၇-တို့၌ အပ-စယဂါမိတာ-ဟု ရှိသည်။ ၎င်း-ကြည့်။)

**အပစ္စယဂါမိ** (တိ) [အပစ္စယ + ဂမု + ဏီ] အကြောင်းကင်းသော နိဗ္ဗာန်သို့ သွားရောက်တတ်သော – အပစ္စယဂါမိ – တရား။

**အပစ္စယနိဗ္ဗာန** (န) အပ္ပစ္စယနိဗ္ဗာန-ကြည့်။

**အပစ္စယပဒ** (န) [အပစ္စယ+ပဒ] အပစ္စယ-ဟူသောပုဒ်။ ကေနာတိ အပစ္စယပဒေန။ သီ၊ဋ္ဌိ၊သစ်၊၁။၂၂၁။

**အပစ္စယပရိနိဗ္ဗာန** (န)အပ္ပစ္စယပရိနိဗ္ဗာန-ကြည့်။

**အပစ္စယဘာဝ**——ကမ္မာနိ ကုသလာဒီနိ ဝိပစ္စယန္တိ အပစ္စယန္တိ တောယာတိ ကမ္မဝိပါကော။ အပစ္စယဘာဝေါ နာမ အရိယမဂ္ဂစေတနာယာတိ အာဟ "မဂ္ဂစေတနာယာ" (မ၊ဋ္ဌ၊၃။၂၃၆) တိ။ မ၊ဋ္ဌိ၊၃။၁၅၈။ ဤ၌ ဝိပစ္စယန္တိ, အပစ္စယန္တိ, အပစ္စယဘာဝေါ-တို့ကား ပါဠ်မှားတို့ ဖြစ်ကုန်ရာသည်။ ဝိပစ္စန္တိ, အာပစ္စန္တိ (ကျက်ကုန်, လောင်ကျွမ်းကုန်၏), အာပစ္စဘာဝေါ (အာပစ္စနဘာဝေါ–ကျက်ကြောင်း, လောင်ကျွမ်းကြောင်း၏ အဖြစ်)ဟု ရှိမှ သင့်မြတ်ရာသည်။

**အပစ္စယသဒ္ဒ** (ပု) [အပစ္စယ + သဒ္ဒ] အပစ္စယ-ဟူသော သဒ္ဒါ။ အပ္ပစ္စယ-ကြည့်။

**အပစ္စယိကဘာဝ** (ပု) အပ္ပစ္စယိကဘာဝ-ကြည့်။

**အပစ္စယုပ္ပန္န** (တိ) [န+ပစ္စယုပ္ပန္န] ပစ္စယုပ္ပန် မဟုတ်သောတရား။ စက္ခာယတနာဒီနိ ရူပါယတနာဒီနဉ္စ ပစ္စယာယတ္တဝုတ္တိတာ ဒီပိတာ အပစ္စယုပ္ပန္နဿ ပစ္စယာဘာဝတော။ မ၊ဋ္ဌိ၊၃။၄၃၀။

**အပစ္စဝေက္ခဏ**(န)(န၊ထီ)[န+ပစ္စဝေက္ခဏ(န)] မဆင်ခြင်ခြင်း၊ မဆင်ခြင်တတ်–တရားတို့၏ သဘောကို စုံ၍ မရှုတတ် – သော တရား။ အနနုယောဂေါ အပစ္စဝေက္ခဏာ ဓမ္မာနံ ပရိပန္ထော။ အံ၊၃။၃၆၄။ အပစ္စဝေက္ခဏာ။ အဘိ၊ဝိ။၈၇။အဘိ၊ပု။၁၂၄။ အပစ္စဝေက္ခဏာ။ အဘိ၊ဓ။၉၄။ မဟာနိ။၃၂၅။ စူဠနိ။၂၅။ ဓမ္မာနံ သဘာဝံ ပတိ န အပေက္ခတီတိ အပစ္စဝေက္ခဏာ။ အဘိ၊ဋ္ဌ၊၁။၂၉၆။ မဟာနိ၊ဋ္ဌ။၃၇၈။ အမနသိကာရော အနာဝဇ္ဇနံ အပစ္စဝေက္ခဏံ။ မူလဋ္ဌိ၊၁။၁၀၈။ အပ္ပစ္စက္ခကမ္မ-လည်း ကြည့်။

**အပစ္စဝေက္ခဏကမ္မ** (န) [အပစ္စဝေက္ခဏ+ကမ္မ] စူးစမ်း – ဆင်ခြင် – မှု မပြုခြင်း။ အသမပေက္ခနာ အပစ္စဝေက္ခဏာ အပစ္စဝေက္ခဏကမ္မံ။ စူဠနိ။၂၅။ (အလားတူဖြစ်သော အဘိ၊ဓ။၉၄။ အဘိ၊ဝိ။၈၇။ အဘိ၊ပု။၁၂၄။ မဟာနိ။၃၂၅-တို့၌ကား အပစ္စက္ခကမ္မံ-ဟု ရှိသည်။ အပ္ပစ္စက္ခကမ္မ-ကြည့်။)

**အပစ္စဝေက္ခဏပရိဘောဂ** (ပု) အပ္ပစ္စဝေက္ခဏပရိဘောဂ-ကြည့်။

**အပစ္စဝေက္ခဏမတ္တ** (န) [အပစ္စဝေက္ခဏ+မတ္တ] မစူးစမ်း – မဆင်ခြင် – ကာမျှ။ န တတ္ထ အပစ္စဝေက္ခဏမတ္တေန ပါရာဇိကံ ပညပေတုံ သက္ကာ။ သံ၊ဋ္ဌ၊၂။၁၀၉။

**အပစ္စဝေက္ခန္တ** (တိ) [န+ပစ္စဝေက္ခန္တ] မစူးစမ်း – မဆင်ခြင် – သော၊သူ။ သစေ အပစ္စဝေက္ခတော အရုဏော ဥဂ္ဂစ္ဆတိ။ ဝိ၊သင်္ဂဟ။၆၈။ အနာဝဇ္ဇန္တော အမနသိကရောန္တော အပစ္စဝေက္ခန္တော။ ဝိသုဒ္ဓိ၊၁။၃၂၁။

**အပစ္စဝေက္ခိတ** (တိ) [န+ပစ္စဝေက္ခိတ] အဖန်ဖန် မရှု – အပ် – သော – သေးသော။ (က) မစူးစမ်း – မဆင်ခြင် – အပ်သော။ အပ္ပစ္စဝေက္ခိတပရိဘောဂ-ကြည့်။ (ခ) ဉာဏ်ဖြင့် – အဖန်ဖန် မရှုအပ် – ပိုင်းခြား၍ မသိအပ် – သေးသော။ ယဿာ သိယာ အပစ္စဝေက္ခိတ- (ထေရီ။၄၂၃)န္တိ ယဿာ ဝုတ္တိယာ ဝုဒ္ဓံ ခန္ဓပဉ္စကံ ဉာဏေန အပဋိဝေက္ခိတံ အပရိညာတံ သိယာ။ ထေရီ၊ဋ္ဌ။၂၆၃။

**အပစ္စဝေက္ခိတပရိဘောဂ** (ပု) အပ္ပစ္စဝေက္ခိတ-ပရိဘောဂ-ကြည့်။

**အပစ္စဝေက္ခိတလောကုတ္တရဓမ္မ** (တိ) [န+ပစ္စ-ဝေက္ခိတလောကုတ္တရဓမ္မ] စူးစမ်း – ဆင်ခြင်–အပ်ပြီး – သိအပ်ပြီး – သော လောကုတ္တရာတရား မရှိသော၊သူ။ အာဝုသော တုံ့ တထာရူပံ အပရိမဒ္ဒိတသင်္ခါရံ အပစ္စဝေက္ခိတ-လောကုတ္တရဓမ္မံ ကာမေဟိ ပလောဘယ ဥပဂစ္ဆ။ ထေရီ၊ဋ္ဌ။၂၆၃။

**အပစ္စဝေက္ခိတာဟာရပရိဘောဂ** (ပု) [အပစ္စ-ဝေက္ခိတ+အာဟာရ+ပရိဘောဂ] မစူးစမ်း – မဆင်ခြင်–အပ်သော အာဟာရကို သုံးဆောင်ခြင်း။ အပစ္စဝေက္ခိတာဟာရပရိ-ဘောဂေါ ပဋ္ဌမံ ပါရာဇိကံ ကတွာ ပညပေ-တဗ္ဗော ဘဝေယျ။ သံ၊ဋ္ဌ၊၂။၉၅။

**အပစ္စဝေက္ခိတွာ** (ကြိ၊ဝိ) အပ္ပစ္စဝေက္ခိတွာ-ကြည့်။

**အပစ္စာဂစ္ဆန္တ** (တိ) [န+ပစ္စာဂစ္ဆန္တ] ပြန်–မလာ–မကပ်ရောက်–သော၊သူ။ သမ္မာ စ ဂတော တေန တေန မဂ္ဂေန ပဟီနေ ကိလေသေ ပုန အပစ္စာဂစ္ဆန္တော။ ဝိ၊ဋ္ဌ၊၁။ ၇၉။ ဝိသုဒ္ဓိ၊၁။၁၉၇။ စူဠနိ၊ဋ္ဌ။၃၅။ သုဋ္ဌု ဂမနဥ္စ နာမ ပဋိပက္ခေန အနဘိဘူတဿ ဂမနန္တိ အာဟ "ပဟီနေ ကိလေသေ ပုန အပစ္စာဂစ္ဆန္တော"တိ၊ ပဟီနာနံ ပုန အသမု-ဒါစာရဝသေန အပစ္စာဂစ္ဆန္တော။ သာရတ္ထ၊ ၁။၂၃၇။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၃၄........ အပစ္စာ-ဂစ္ဆန္တောတိ ပဟီနာနံ ပုနာနုပ္ပတ္တိတော န ပုန ဥပဂစ္ဆန္တော။ ဝိမတိ၊၁။၅၁။ (ပါရာ၊ ဂဏ္ဌိသစ်၊၁။၄၂၈-လည်း ကြည့်။)

**အပစ္စာဂမန** (ထိ၊န) [န+ပစ္စာဂမန] ပြန်–မလာ–မကပ်ရောက်–ခြင်း။ ပဟီနကိလေ-သေ အပစ္စာဂမနဝသေန။ မဟာနိ၊ဋ္ဌ။၄၀၃။ ပဟီနကိလေသာနံ ပုန အပစ္စာဂမနံ။ သာ-ရတ္ထ၊၁။၂၃၇။ ယဒါ ဒေဝါ ပုန အပစ္စာ-ဂမနာယ အသုရေ ဇိနိံသု။ အံ၊ဋီ၊၃။၃၀၃။

**အပစ္စာဇာတတ္တ** (န) [အပစ္စာဇာတ+တ္တ] ဖြစ်သူ–စွဲ၍ဖြစ်သူ–မွေးဖွားသူ – မဟုတ်သည်၏ အဖြစ်။ တသ္မိံ ကုလေ အပစ္စာဇာတတ္တာ န ဇဝံ ဟောတိ။ အဘိ၊ဋ္ဌ၊၃။၅၈။

**အပစ္စာနုတာပိ** (တိ) [န+ပတိ+အနု+တာပ+ဤ။ ထိ၌ အပစ္စာနုတာပိနီ] နောက်ထပ် အဖန်ဖန် ပူပန်ခြင်းမရှိသော၊သူ။ တာ မယံ ဘန္တေ ပရိပုဏ္ဏကမ္မန္တာ အဝိပ္ပဋိသာရိနိယော အပစ္စာနုတာပိနိယော ပဏီတံ ကာယံ ဥပ-ပန္နာ။ အံ၊၃။၁၉၄။

**အပစ္စာဝမန** (န၊ထိ) [န+ပစ္စာဝမန (=ပတိ+အာ+ဝမု+ယု)] ပြန်၍ မမျိုခြင်း။ အရိယ-မဂ္ဂမုခေန ဥဂ္ဂိရိတံ ပုန အပစ္စာဝမနဝသေန ဆဍ္ဍိတံ။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၅၇။ (သာရတ္ထ၊ ၁။၃၁၄-၌ကား အပစ္စာဂမနဝသေန-ဟု ရှိသည်။)

**အပစ္စာသ** (တိ) [န+ပစ္စာသာ] တောင့်တ–မြော်ကိုး – ခြင်း မရှိသော၊ ရလိမ့်နိုးနိုး – တောင့်တ – မြော်ကိုး –ခြင်း မရှိသော၊သူ။ နိရာလယော အပစ္စာသော။ စရိယာ။၃၈၈။ အပစ္စာသော ကိဥ္စိပိ အပစ္စာသိသမာနော....။ ၎င်း၊ဋ္ဌ။၄၅။

**အပစ္စာသာ** (ထိ) [န+ပစ္စာသာ] မတောင့်တ–မမြော်ကိုး–ခြင်း၊ ရလိမ့်နိုးနိုး – မတောင့်တ – မမြော်ကိုး – ခြင်း။ သာမဏေရာဒီနံ အပစ္စာသာယပိ ပရဇနဿ ဘေသဇ္ဇကရဏံ န ဝဋ္ဋတိ။ ဝိမတိ၊၁။၂၃၅။

**အပစ္စာသိသကပက္ခ** (ပု) [အပစ္စာသိသက+ပက္ခ] မတောင့်တ–မမြော်ကိုး–သော သူတို့၏–အဖွဲ့အစု–အသင်းအပင်း။ အပစ္စာ-သိသနပက္ခ-ကြည့်။

**အပစ္စာသိသန** (န) [န+ပစ္စာသိသန] (၁) မတောင့်တ–မမြော်ကိုး–ခြင်း။ အပစ္စာ-

သီသနဥ္စ မိစ္ဆာဇီဝကုလဒူသနာဒိဒေါသနိ-
သေဓနတ္ထမေဝ ဝုတ္တံ။ ဝိမတိ၊ ၁။ ၂၃၆။ (တိ)
(၂) မတောင့်တ – မမြော်ကိုး – သော၊ သူ။
အပစ္စာသီသနပက္ခ, – ဘာဝ-တို့ ကြည့်။

**အပစ္စာသီသနပက္ခ** (ပု) [အပစ္စာသီသန+ပက္ခ] မတောင့်တ – မမြော်ကိုး – သော သူတို့၏ – အဖွဲ့အစု – အသင်းအပင်း။ ဇဝံ မိဂါ အပစ္စာ-သီသနပက္ခေ ဌိတာ။ မ၊ဋ္ဌ၊၃။၁၁၇။ အပစ္စာ-သီသနပက္ခေတိ တာယ ပရဒတ္တဝုတ္တိတာယ ကဿစိ ပစ္စယဿ ကုတောစိ အပစ္စာသီသက-ပက္ခေ ဌိတာ.... ။ မ၊ဋီ၊၃။၇၆။

**အပစ္စာသီသနဘာဝ** (ပု) [အပစ္စာသီသန+ဘာဝ] မတောင့်တ – မမြော်ကိုး – သော သူ၏အဖြစ်။ ကလဟံ ကတွာ ကဿစိ အပစ္စာ-သီသနဘာဝံ ကရိဿာမိ။ ဇာ၊ဋ္ဌ၊၁။၅၀၉။

**အပစ္စာသီသန္တ** (တိ) [န+ပစ္စာသီသန္တ] မတောင့်တ – မမြော်ကိုး – သော၊ သူ။ သဗ္ဗေသံ အပစ္စာသီသန္တေန ဘေသဇ္ဇံ ကာတဗ္ဗံ။ ဝိ၊ဋ္ဌ၊၂။၆၆။ အပစ္စာသီသန္တေနာတိ.... အပတ္ထယ-န္တေန။ ဝိမတိ၊၁။၂၃၅။ အပစ္စာသီသန္တေန ဟုတွာ ဒါတဗ္ဗံ။ ဝိ၊ဋ္ဌ၊၄။၂၅၆။ (အဘိ၊ဋ္ဌ၊၂။ ၃၂၂။ မဟာနိ၊ဋ္ဌ။၃၅၁။ ဥတိဝုတ်၊ဋ္ဌ။၁၉၅-တို့လည်း ကြည့်။)

**အပစ္စာသီသမာန** (တိ) [န+ပစ္စာသီသမာန] မတောင့်တ – မမြော်ကိုး – သော၊သူ။ ပဂုဏ-ဓမ္မံ အပစ္စာသီသမာနော။ ဒီ၊ဋ္ဌ၊၃။၁၀၂။ အဘိ၊ဋ္ဌ၊၁။၂၀၃။ ဟိတသုခံ အပစ္စာသီသ-မာနော။ ဇာ၊ဋ္ဌ၊၃။၄၀၁။ အပစ္စာသ-လည်း ကြည့်။

**အပစ္စာဟရဏကာရဏ** (န) [န+ပစ္စာဟရဏ+ကာရဏ] တဖန်ပြန်၍ မဆောင်ခြင်းဟူသော အကြောင်း။....တဿ ဝိသဿ အပစ္စာဟရဏ-ကာရဏာ ယံ အဂ္ဂိံ ပဝိသိတွာ မရဏံ၊ တံ မမ ဇီဝိတတော ဝရံ။ ဇာ၊ဋ္ဌ၊၁။၃၂၉။

**အပစ္စာဟရန္တ** (တိ) [န+ပစ္စာဟရန္တ] တဖန် ပြန်၍ – မဆောင်ယူ – မပြောကြား – သော၊သူ။ တေနေဝ နယေန ဝိမံသိတွာ အပစ္စာဟ-ရန္တော....။ဝိ၊ဋ္ဌ၊၂။၁၄၄-၅။

**အပစ္စာဟရိတုံ** (ကြိ၊ဝိ) [န+ပစ္စာဟရိတုံ] တဖန်ပြန်၍ – မဆောင်ယူ – မပြောကြား – ခြင်းငှါ။ ပါဠိပဒေ ဘိက္ခုနီနံ အပစ္စာဟရိတုံ ဝါ န ဝဋ္ဋတိ။ ဝိ၊ဋ္ဌ၊၃။၆၃။

**အပစ္စာဟရိတွာ** (ကြိ၊ဝိ) [န+ပစ္စာဟရိတွာ] တဖန်ပြန်၍ – မဆောင်ယူ – မပြောကြား – မူ၍။ အပစ္စာဟရိတွာ တတောဝ ပက္ကမတိ။ ဝိမတိ၊၁။၂၇၀။

**အပစ္စိ** (ကြိ) ပစ္စတိ-ကြည့်။

**အပစ္စုဒ္ဒရ** (တိ) အပ္ပစ္စုဒ္ဓရ-ကြည့်။

**အပစ္စုဒ္ဒရဏ** (န) [န+ပစ္စုဒ္ဒရဏ] (၁) ပစ္စုဒ္ဒိုရ်မပြု – အဓိဋ္ဌာန်မချ – မစွန့် – ခြင်း။ ပဌမ-ကထိနသိက္ခာပဒေ အနဓိဋ္ဌာနံ အဝိကပ္ပနဥ္စ အကိရိယံ၊ ဋ္ဌမ အပစ္စုဒ္ဒရဏံ။ ဝိ၊ဋ္ဌ၊၂။၂၃၇။ (ကင်္ခါ၊ဋ္ဌ။၉၇လည်းကြည့်။)(တိ)(၂)ပစ္စုဒ္ဒိုရ် ပြုခြင်း – ဝိကပ္ပနာပြန်ခြင်း – စွန့်ခြင်း – မရှိသော။ ပရိဘုဥ္စိတုံ .... န ဝဋ္ဋတိ(ဝိ၊ဋ္ဌ၊၂။ ၂၃၀)တိ သယံ အပစ္စုဒ္ဒရဏံ ပရိဘုဥ္စနေ ပါစိတ္တိယံ .... သန္ဓာယ ဝုတ္တံ။ ဝိမတိ၊၁။၃၁၅။ (ပစ္စုဒ္ဒိုရ် ၂-မျိုး အဓိပ္ပါယ်ကို ဝိ၊ဋ္ဌ၊၂။၂၂၆၊ ၂၃၀-တို့တွင် ကြည့်။)

**အပစ္စုဒ္ဒရန္တ** (တိ) အပ္ပစ္စုဒ္ဒရန္တ-ကြည့်။

**အပစ္စုဒ္ဒရာပေတွာ** (ကြိ၊ဝိ) [န+ပစ္စုဒ္ဒရာပေ-တွာ] ပစ္စုဒ္ဒိုရ်မပြု – အဓိဋ္ဌာန်မချ – မစွန့် – စေမူ၍။ ထေရဿ စီဝရံ အပစ္စုဒ္ဒရာပေတွာ ဂစ္ဆတိ။ သာရတ္ထ၊၂။၃၉၆။ အပစ္စုဒ္ဒရာပေတွာ-ဝ နိဒဟိတဗ္ဗံ။ ဝိမတိ၊၁။၃၁၅။

**အပစ္စုဒ္ဒရိတွာ** (ကြိ၊ဝိ) [န+ပစ္စုဒ္ဒရိတွာ] ပစ္စု-ဒ္ဒိုရ်မပြု – အဓိဋ္ဌာန်မချ – မစွန့် – မူ၍။ ကတ္တိ-ကပုဏ္ဏမဒိဝသေ အပစ္စုဒ္ဒရိတွာ ဟေမန္တေ အာပဇ္ဇတိ။ ဝိ၊ဋ္ဌ၊၄။၁၆၄။ သာရတ္ထ၊၂။၃၉၀။

